ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၈၇/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးလှမြင့်ရွှေ

(ခ) **အဘ အမည်** ဦးထွန်းလင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁/မကန(နိုင်) ၀၁၇၁၉၂

(ဃ) **နေရပ်လိပ်စာ** အမှတ်(၅၉၃)၊ ပြည်လမ်း၊ ၂ ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** ယူနိုက်တက် ပစိဖိက်ကုမ္ပဏီ လီမိတက် (UNITED PACIFIC COMPANY LIMITED)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နိုင်ငံတကာ အဆင့်မီ နည်းပညာဖြင့် အမျိုးသမီးကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** စက်မှုဝန်ကြီးဌာန၊အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်း (ယခင်အထည်အလိပ်လုပ်ငန်း)ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အင်းစိန်လမ်း၊ ၇ မိုင် ၇ ဖာလုံ၊ ၃ ရပ်ကွက်၊ အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း) ရှိ မြေဧရိယာ (၆.၉၅) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၈၆၅.၆၈ (US$ ၅၄,၇၅၀ အပါအဝင် ကျပ်သန်းပေါင်း ရှစ်ရာ ခြောက်ဆယ့် ငါးသန်း ခြောက်သိန်း ရှစ်သောင်းခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၃၀ နှစ်

၁၆/၂

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၅၈ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယာခင်အထည်အလိပ်လုပ်ငန်း)ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အင်းစိန်လမ်း၊ ၇ မိုင် ၇ ဖာလုံ၊ ၃ ရပ်ကွက်၊ အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း)ရှိ မြေဧရိယာ (၆.၉၅)ဧက(၂၈,၁၂၅.၆၇၇ စတုရန်းမီတာ)အား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီးကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇/၂၀၁၆) အစည်းအဝေးမှ ကနဦး နှစ် ၂၀ သက်တမ်းကုန်ဆုံးမည့်အချိန်နီးမှသာ ကနဦးသက်တမ်း နှစ် ၅၀ သို့ တိုးမြှင့်ခွင့်ကို ပြန်လည် တင်ပြရန်နှင့် လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက် (United Pacific Company Limited)ကို နိုင်ငံတကာ အဆင့်မီ နည်းပညာဖြင့် အမျိုးသမီး ကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၈၇/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍

တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် ဤခွင့်ပြုမိန့်အရလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော စက်မှုဇုန်ကြီး၌ဌာန၊ အမှတ်(၃) ဒေသကြီးစားစက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း)ပိုင် စက်ရုံ

မြေနှင့်အဆောက်အဦအား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် တတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ကို ကော်မရှင်၏ ဆုံးဖြတ်ချက်နှင့်အညီ ကိုက်ညီအောင် ပြန်လည် ချုပ်ဆိုရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့် ၁-၁၁-၂၀၁၃ နေ့မှစတင်၍ ကနဦးနှစ်(၂၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ကနဦး နှစ် ၂၀ သက်တမ်းကုန်ဆုံးမည့် အချိန်နီးမှသာ ကနဦးသက်တမ်းကို နှစ် ၅၀ သို့ တိုးမြှင့်ခွင့်ကို ပြန်လည် တင်ပြရမည်။ ထိုသို့ စာချုပ် သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် စက်ရုံ၊ မြေနှင့် အဆောက်အဦများ၏ ငှားရမ်းခနှုန်းထားအဖြစ် တစ်နှစ်လျှင် ကျပ်သန်း ၄၆၀.၄၀၀ (ကျပ်သန်း လေးရာ ခြောက်ဆယ်သန်း လေးသိန်းခန့်) အား စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း) သို့ ပေးသွင်းရမည်။

၉။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း)၊ မရမ်းကုန်း မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှု လုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း)နှင့် အငှားချထားခြင်းခံရသူ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက် (United Pacific Company Limited)တို့ ချုပ်ဆိုသည့် သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် တတိယအကြိမ် ပြင်ဆင်ချက် သဘောတူ စာချုပ်ကို ကော်မရှင်၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင် ချုပ်ဆိုပြီးပါက လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်း ခွန်များအား ပေးဆောင်ပြီးသည့်အခါ ယင်း သဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၀။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်း ဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်း ကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့်ညှိနှိုင်း ဆောင်ရွက် ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက် ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၃။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၆။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်**တင်ပြ၍ အကြည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၈။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော

ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်း ခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

၁၆/၂

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၃/မ-၁၂၉၄/၂၀၁၆ ( ၄၆၆-ဃ)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ကန့်သတ်

၆

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင် အထည်အလိပ်လုပ်ငန်း)

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက် (United Pacific Company Limited)

ကုမ္ပဏီအမည် - ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက်

လုပ်ငန်း - နိုင်ငံတကာ အဆင့်မီ နည်းပညာဖြင့် အမျိုးသမီး ကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၃-၁၁-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၁၂-၂၀၁၅ | ၁၄-၁-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၂-၁၂-၂၀၁၅ | ၆-၁-၂၀၁၆ | |
| | (ဂ)စက်မှုဝန်ကြီးဌာန | ၂၂-၁၂-၂၀၁၅ | ၁၁-၁-၂၀၁၆ | |
| | စက်မှုဝန်ကြီးဌာန(ဒုတိယအကြိမ်) | ၂၆-၁-၂၀၁၆ | ၈-၂-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၄/၂၀၁၅) သို့အစည်းအဝေး တင်ပြခြင်း | ၃၀-၁၁-၂၀၁၅ | | အဆိုပြုချက်စိစစ်ရေး<br>အဖွဲ့အစည်းအဝေးဆုံး<br>ဖြတ်ချက်နှင့်အညီ<br>လုပ်ငန်းအမျိုးအစား<br>တစ်ခုတည်းဖြင့်ပြန်<br>လည်တင်ပြလာသည့်<br>နေ့မှ လက်ခံကြောင်း<br>ပေးပို့ခြင်း ဖြစ်ပါသည်။ |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၁၇-၁၂-၂၀၁၅ | | |
| ၅ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၇-၁၂-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | ၂၇-၁-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်ပြီး အဆိုပြုလွှာ (၁၀)စုံ ပေးပို့ခြင်း | ၈-၂-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၇၆)ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - ယူနိုက်တက်ပစိဖိတ် ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီး ကျန်းမာရေးသုံး ပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်အထည် အလိပ်လုပ်ငန်း) ပိုင် အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း)၊ ၃ ရပ်ကွက်၊ ၇ မိုင် ၇ ဖာလုံ၊ အင်းစိန်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၈၆၅.၆၈ သန်း (US$ ၅၄,၇၅၀ အပါအဝင်) |
| ရောင်းချမည့်စနစ် | - ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် (၁၀နှစ် ၂ကြိမ် သက်တမ်းတိုး) |
| အရင်းကြေကာလ | - ၉ နှစ် ၂ လ |
| IRR | - ၁၇ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၁.၆၈ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၅၃.၂၉ | |
| ၄ | ဝင်ငွေခွန် | ၃၂၃.၉၀ | ၄၅၃.၄၆ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၈၀၀.၀၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၄၁၅.၀၁ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁၈၇) ဦး |
| ၈ | CSR (၁ %) | - | ၁၀၆.၉၈ |
| ၉ | မြေငှားရမ်းခရငွေ | | ၂၇၆၂.၄၄ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း လုပ်သား (၂၀၄) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | **စုစုပေါင်း** | **ကျပ် ၅၇၈.၈၇ သန်း** | **ကျပ် ၄၅၃၉.၀၆ သန်း** |
| | Cost **:** Benefit | **၁ : ၈** | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၂)

PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဥ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | Case Officer |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁ | ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက် | နိုင်ငံတကာ အဆင့်မီ နည်းပညာဖြင့် အမျိုးသမီး ကျန်းမာရေးသုံး ပစ္စည်းထုတ်လုပ် ဖြန့်ဖြူးမှု လုပ်ငန်း | ၄၄/၂၀၁၅ ၃၀-၁၁-၂၀၁၅ | - မြေမှာအမှတ် ၃၊ အကြီးစား စက်မှုလုပ်ငန်းပိုင် မြေဖြစ်၍ မြေနှင့်ပတ်သက်သည့် မြေပုံနှင့် စက်ရုံ ငှားရမ်းခြင်းစာချုပ် (မူကြမ်း) တို့တွင် ဌာန အမည်ထည့် သွင်းဖော်ပြ ပေးရန်၊ | ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူ စာချုပ်တွင် ပြင်ဆင်ပြီး | |
| | | | | - နောက်ဆက်တွဲ-၁၀ နှစ်စဥ် လျှပ်စစ်ဓါတ်အား လိုအပ်ချက်၏ Quantity တွင် 323.4 KVA ဟု ဖော်ပြထားသည်ကို Kwh ဖြင့် ဖော်ပြရန်၊ | Annex-10 တွင် 175 Kwh ဖြင့် ပထမနှစ်မှာ ပြင်ဆင်ပြီး | |
| | | | | - နောက်ဆက်တွဲ- ၃၊ အမှတ် စဥ်-၅ တွင် Other Accessory ဟု ဖော်ပြ ထားသဖြင့် မည်သည့် ပစ္စည်း ဖြစ်သည်ကိုဖော်ပြပေးရန်၊ | Annex-3 ဖြင့် ပြင်ဆင် တင်ပြထားပြီး | |

## ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက်၏ စက်မှုဝန်ကြီးဌာနမှ ငှားရမ်းဆောင်ရွက်သည့် မြေစာချုပ်ပါကိစ္စရပ်များ

| စဉ် | အကြောင်းအရာ | မူလစာချုပ် | ပထမအကြိမ် ပြင်ဆင်ချက် | ဒုတိယအကြိမ် ပြင်ဆင်ချက် | တတိယအကြိမ် ပြင်ဆင်ချက် |
|---|---|---|---|---|---|
| ၁ | လုပ်ငန်းသက်တမ်း | - | - | - | - ကနဦး ၅၀ နှစ်<br>- သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| ၂ | ငှားရမ်းသက်တမ်း | - ၁-၁၁-၂၀၁၃ မှ<br>- ၃၁-၁၀-၂၀၂၃ ထိ<br>- ၁၀ နှစ် (၅+၅) | - ၁-၁၁-၂၀၁၃ မှ<br>- ၃၁-၁၀-၂၀၄၃ ထိ<br>- ၃၀ နှစ် (၂၀+၅+၅) | - ၁-၁၁-၂၀၁၃ မှ<br>- ၃၁-၁၀-၂၀၄၃ ထိ<br>၃၀ နှစ် (၂၀+၅+၅) | - ၁-၁၁-၂၀၁၃ မှ<br>- ၃၁-၁၀-၂၀၆၃ ထိ<br>၅၀ နှစ် (၅၀+၁၀+၁၀) |
| ၃ | စတင်ငှားရမ်းသည့်နေ့ | - ၁-၁၁-၂၀၁၃ | - ၁-၁၁-၂၀၁၄ | ၁-၁၁-၂၀၁၃ | - ၁-၁၁-၂၀၁၃ |
| ၄ | ငှားရမ်းခပထမနှစ် | - ကျပ် ၄၁၀.၀၀ သန်း | - ကျပ် ၄၁၀.၀၀ သန်း | - ကျပ် ၄၁၀.၀၀ သန်း +<br>ကျပ် ၅၀.၄၀၀ သန်း<br>- စုစုပေါင်း ကျပ် ၄၆၀.၄၀၀ သန်း | ကျပ် ၄၆၀.၄၀၀ သန်း |
| ၅ | LUP | - ကျပ် ၅.၀၀ သန်း | - ၅-၃-၂၀၁၅ ရက်နေ့တွင် ပေးသွင်းပြီး ဖြစ်ပါသည်။ | - | - |
| ၆ | PBG | - ၁ နှစ် ငှားရမ်းခ၏ ၁၀% နှင့် ညီမျှသော တန်ဖိုး | - ၁၂-၉-၂၀၁၄ ရက်နေ့တွင် ပေးသွင်းပြီး ဖြစ်ပါသည်။ | - | - |
| ၇ | ဝန်ထမ်းအရေအတွက် | - ၄၁၈ ဦး | - ၄၁၈ ဦး | - ၄၁၈ ဦး | - ၂၀၄ ဦး |
| ၈ | အဆောက်အဦ | - ပင်မစက်ရုံအပါအဝင် စက်မှုဆိုင်ရာ အဆောက်အဦ ၁၁ လုံး၊ ဝန်ထမ်းအိမ်ယာ အဆောက်အဦ ၄ လုံး<br>- စုစုပေါင်း ၁၅ လုံး | - ပင်မစက်ရုံအပါအဝင် စက်မှုဆိုင်ရာ အဆောက်အဦ ၁၁ လုံး၊ ဝန်ထမ်းအိမ်ယာ အဆောက်အဦ ၄ လုံး<br>- စုစုပေါင်း ၁၅ လုံး | - ပင်မစက်ရုံအပါအဝင် ၈ လုံး၊ ဝင်းသူဇာ ၁ လုံး<br>- စုစုပေါင်း ၉ လုံး | - ပင်မစက်ရုံအပါအဝင် ၈ လုံး၊ ဝင်းသူဇာ ၁ လုံး<br>- စုစုပေါင်း ၉ လုံး |
| ၉ | ရင်းနှီးပမာဏ | - | - | - | - ကျပ် ၈၆၅.၆၈ သန်း |
| ၁၀ | စာချုပ်လက်မှတ်ထိုးသည့်နေ့ | - ၃၀-၁၀-၂၀၁၃ | - ၃၀-၇-၂၀၁၄ | - ၂၉-၇-၂၀၁၅ | - ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ |

| | | | | | |
|---|---|---|---|---|---|
| | | | | | ပြင်ဆင်သည့် စာချုပ်(မူကြမ်း) တင်ပြထားပါသည်။ |
| ၁၁ | စာချုပ်ပြင်ဆင်ရသည့် အကြောင်းအရင်း | - | - ယခင် အထည်အလိပ် လုပ်ငန်းအား အမှတ် ၃ အကြီးစား စက်မှုလုပ်ငန်းအဖြစ် အမည်ပြောင်းလဲခြင်း ဖြစ်ပါသည်။ | - မူလငှားရမ်းသည့် အဆောက်အဦ ၁၅ လုံး အနက်မှ ၇ လုံး အား လေလံတင်ဖျက်သိမ်း ရောင်းချပြီး ပင်စက်ရုံအပါ အဝင် ၈ လုံး နှင့် ဝင်းသူဇာ အဆောက်အဦ ၁ လုံး ထပ်မံ ဖြည့်စွက်သည့်အတွက် ငှားရမ်းခ ကျပ် ၅၀.၄၀ သန်း ထပ်မံတိုးမြှင့်ပါသည်။<br>- စုစုပေါင်း ကျပ် ၄၆၀.၀၀ သန်း ဖြစ်ပါသည်။ | - မြေငှားသက်တမ်းအား ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် တိုးမြှင့်ခြင်း ဖြစ်ပါသည်။ |
| ၁၂ | Cabinet အကြိမ်/နေ့စွဲ | - | ၈/၂၀၁၄ (၂၄-၄-၂၀၁၄) | - | |
| ၁၃ | EC | - | ၁၉/၂၀၁၃-၂၀၁၄ (၁၉-၁၂-၂၀၁၃) | ၁၉/၂၀၁၄-၂၀၁၅ (၃-၁၀-၂၀၁၄)<br>၂၅/၂၀၁၄-၂၀၁၅ (၁၇-၁၂-၂၀၁၄) | |
| ၁၄ | ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက် | - | - | - | - ၂-၁၀-၂၀၁၅ ရက်စွဲပါ စာတွင် ငှားရမ်းကာလ (၂၀+၅+၅) နှစ် အစား (၅၀+၁၀+၁၀) ဖြင့် နှစ်ရှည်ငှားရမ်းရန်စီစဉ်ဆောင်ရွက် လျက်ရှိပါ၍ တတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း)အား ချုပ်ဆိုခြင်း ဖြစ်ကြောင်း |
| ၁၅ | ပြင်ဆင်ဖြည့်စွက်မှု | | | | |

အကြောင်းအရာ။ **ယူနိုက်တက် ပစိဖိတ်ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီးကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးလှမြင့်ရွှေ (အဘ- ဦးထွန်းလင်း) |
| | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီး ကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂ | တည်နေရာ | - အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း) ၊ ၇ မိုင် ၇ ဖာလုံ၊ ၃ ရပ်ကွက်၊ အင်းစိန်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင်အထည်အလိပ် လုပ်ငန်း)၊ စက်မှုဝန်ကြီးဌာန |
| | မြေအကျယ်အဝန်း | - ၆.၉၅ ဧက (၂၈,၁၂၅.၆၇၇ စတုရန်းမီတာ) အနက်မှ ၂၅၆ ပေ X ၁၅၉ ပေ X ၂၀ ပေ အကျယ် အဝန်းရှိသော ပင်မစက်ရုံအဆောက်အဦ အမှတ်၂ |
| ၃ | လုပ်ငန်းဆောင်ရွက်မှုအာမခံ(PBG) | - တစ်နှစ်ငှားရမ်းခ၏ ၁၀% နှင့် ညီမျှသော တန်ဖိုး |
| | မြေအသုံးချမှုပရီမီယံကြေး | - ကျပ် ၅.၀၀ သန်း |
| | တစ်နှစ်ငှားရမ်းခ | - ကျပ် ၄၆၀.၄၀ သန်း |
| | မြေနှင့်စက်ရုံငှားရမ်းသက်တမ်း | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်<br>- (၁-၁၁-၂၀၁၃ မှ ၃၁-၁၀-၂၀၆၃ ထိ လက်ကျန် သက်တမ်း ၄၈ နှစ်ဖြစ်ပါသည်) |
| ၄ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | ပြုပြင်မွမ်းမံမှုကာလ | - ၁ နှစ် |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၈၆၅.၆၈ သန်း (US $ ၅၄,၇၅၀ အပါအဝင်) |
| | **ထည့်ဝင်သည့်အမျိုးအစား** | **ကျပ်(သန်း)** |
| | ငွေပမာဏ | ၁၇၅.၀၀ |
| | စက်နှင့်စက်ပစ္စည်းတန်ဖိုး | ၃၇၀.၁၈ (US $ ၅၄,၇၅၀ အပါအဝင်) |
| | စက်ရုံသုံးပစ္စည်းတန်ဖိုး | ၂၂.၅၀ |
| | ရုံးလုပ်ငန်းသုံးပစ္စည်းများတန်ဖိုး | ၅.၀၀ |
| | မြေအသုံးပြုခွင့် | ၅.၀၀ |
| | အဆောက်အဦပြုပြင်မွမ်းမံစရိတ် | ၂၂၇.၀၀ |
| | လုပ်ငန်းသုံးယာဉ်တန်ဖိုး | ၆၀.၀၀ |
| | **စုစုပေါင်း** | **၈၆၅.၆၈ (US $ ၅၄,၇၅၀ အပါအဝင်)** |

| | | |
|---|---|---|
| ၆ | ပြည်တွင်းဝန်ထမ်းအင်အား (ပထမနှစ်) | - ၂၀၄ ဦး (အနိမ့်ဆုံး လစာကျပ် ၁၃၀,၀၀၀ နှင့် အမြင့်ဆုံး လစာ ကျပ် ၂၅၀,၀၀၀)<br>- (လွဲပြောင်းဝန်ထမ်း ၁၇၆ ဦးအပါအဝင်) |
| ၇ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀ % ရောင်းချမည်ဖြစ်ပါသည်။ |
| | ထုတ်လုပ်မှုနှင့်ရောင်းချမှု (၆နှစ်မြောက်) | |
| | **အမျိုးအမည်**<br>Sanitary Napkin<br>(i Care တံဆိပ်) | **ထုတ်လုပ်မှု (Package)** ၁၀၀,၀၀၀ — **ရောင်းဈေးနှုန်း (ကျပ် /Package )** ၃၂,၀၀၀<br>* ၁ Package = ၈၀၀ ခု ၁ ခု လျှင် ၄၀ ကျပ် |
| ၈ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် ) | - ကျပ် ၃၂၀၀.၀၀ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ်(ဆဋ္ဌမနှစ် ) | - ကျပ် ၃၀၀၅.၆၆ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၁၉၄.၃၄ သန်း |
| ၉ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်(ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၆၄.၇၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၆၀.၀၀ သန်း<br>(အမေရိကန် ၁ဒေါ်လာလျှင် မြန်မာငွေ ၁၃၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်) |
| | အရင်းကြေကာလ | - ၉ နှစ် ၂ လ |
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၇ % |
| ၁၀ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၁၇၅ kWh |
| ၁၁ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၁ %ကို Corporate Social Responsibility အဖြစ်အသုံးပြုမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၁၂ | မီးဘေးကာကွယ်ရေးအစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်း၊ မီးငြိမ်းသတ်ရေးလုပ်ငန်း စီမံချက်ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၃ | အခြား | - စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်း (ယခင် အထည်အလိပ် လုပ်ငန်း) ပိုင် အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း)၊ ၃ ရပ်ကွက်၊ ၇ မိုင် ၇ ဖာလုံ၊ အင်းစိန်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေဧရိယာ |

| | | |
|---|---|---|
| | | (၆.၉၅) ဧက (၂၈,၁၂၅.၆၇၇ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ စုစုပေါင်း ၉ လုံးပါရှိသည့်အနက်မှ ၂၅၆ ပေ X ၁၅၉ ပေ X ၂၀ ပေ အကျယ် အဝန်းရှိသော ပင်မစက်ရုံအဆောက်အဦ အမှတ်၂ တွင်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- (၃၀-၇-၂၀၁၄) ရက်စွဲပါ အထည်အလိပ်လုပ်ငန်းနှင့် ချုပ်ဆိုထားသည့် **ပထမအကြိမ်** ပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ် မိတ္တူ၊ (၂၉-၇-၂၀၁၅) ရက်စွဲပါအမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း (ယခင်အထည်အလိပ်လုပ်ငန်း) နှင့် ချုပ်ဆိုထားသည့် **ဒုတိယအကြိမ်** ပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ် မိတ္တူ၊ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ (၂-၁၀-၂၀၁၅) ရက်စွဲပါ အမှတ်(၃) အကြီးစား စက်မှု လုပ်ငန်းရှိ အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း)အား ငှားရမ်းဆောင်ရွက်သည့် စာချုပ်သက်တမ်း ထပ်မံ တိုးမြှင့်ထားသည့် **တတိယအကြိမ်** ပြင်ဆင်ချက် သဘောတူ စာချုပ်(မူကြမ်း)အား ပြန်လည်ပြင်ဆင် တင်ပြထားပါသည်။<br>- ယူနိုက်တက်ပစိဖိတ် ကုမ္ပဏီလီမိတက်မှ ငွေကြေးအထောက်အထားအဖြစ် Kanbawza Bank, Shwegonedine Branch တွင် ဦးလှမြင့်ရွှေ၊ ဒေါ်အေးမြတ်မွန် အမည်ဖြင့် (၃-၉-၂၀၁၅)နေ့တွင်ငွေလက်ကျန်ကျပ် ၂၃၇,၆၈၆,၇၉၆.၅၅ ရှိကြောင်း တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွင့်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၃/မ-၁၂၉၄/၂၀၁၆( ၂၃၆ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၀ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ယူနိုက်တက် ပစိဖိတ်ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီး ကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ယူနိုက်တက် ပစိဖိတ်ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင် အထည်အလိပ် လုပ်ငန်း) ပိုင် အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း)၊ ၇ မိုင် ၇ ဖာလုံ၊ ၃ ရပ်ကွက်၊ အင်းစိန်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ (၆.၉၅) ဧက (၂၈,၁၂၅.၆၇၇ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ စက်ရုံအဆောက်အဦများအား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီး ကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးလှမြင့်ရွှေ (အဘ- ဦးထွန်းလင်း)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပြီး ပြုပြင်မွမ်းမံမှုကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့်စက်ရုံငှားရမ်းသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပြီး ၁-၁၁-၂၀၁၃ မှ ၃၁-၁၀-၂၀၆၃ ထိ လက်ကျန် သက်တမ်း ၄၈ နှစ်ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့်စက်ရုံ ငှားရမ်းခမှာ မြေဧရိယာ (၆.၉၅) ဧက (၂၈,၁၂၅.၆၇၇ စတုရန်းမီတာ) အတွက် ကျပ် ၄၆၀.၄၀ သန်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ မူလ မတည်ငွေရင်း ကျပ် ၇၃၅.၀၀ သန်း မှ ကျပ် ၁၃၀.၆၈ သန်း ထပ်မံတိုးမြှင့်၍ အမေရိကန်ဒေါ်လာ ၅၄,၇၅၀ အပါအဝင် စုစုပေါင်း မတည်ငွေရင်း ကျပ် ၈၆၅.၆၈ သန်း ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်သည့်အမျိုးအစား** | **ကျပ်(သန်း)** | |
|---|---|---|
| ငွေပမာဏ | ၁၇၅.၀၀ | |
| စက်ပစ္စည်းကိရိယာတန်ဖိုး | ၃၇၀.၁၈ | (US $ ၅၄,၇၅၀ အပါအဝင်) |
| စက်ရုံသုံးပစ္စည်းတန်ဖိုး | ၂၂.၅၀ | |
| ရုံးလုပ်ငန်းသုံးပစ္စည်းများတန်ဖိုး | ၅.၀၀ | |

ကန့်သတ်

| | |
|---|---|
| မြေအသုံးပြုခွင့် | ၅.၀၀ |
| အဆောက်အဦပြုပြင်မွမ်းမံစရိတ် | ၂၂၇.၀၀ |
| လုပ်ငန်းသုံးယာဉ်တန်ဖိုး | ၆၀.၀၀ |
| **စုစုပေါင်း** | **၈၆၅.၆၈ (US $ ၅၄,၇၅၀ အပါအဝင်)** |

၄။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း(၂၀၄)ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၃၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၂၅၀,၀၀၀ ဖြစ်ပါသည်။ (လွှဲပြောင်းဝန်ထမ်း ၁၇၆ ဦးအပါအဝင်)

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော Sanitary Napkin များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| **အမျိုးအမည်** | **ထုတ်လုပ်မှုအရေအတွက်** (* Package) | **ရောင်းဈေးနှုန်း** (ကျပ် /* Package ) |
|---|---|---|
| Sanitary Napkin (i Care တံဆိပ်) | ၁၀၀,၀၀၀ | ၃၂,၀၀၀ |

* ၁ Package = ၈၀၀ ခု ၊ ၁ ခု လျှင် ၄၀ ကျပ်

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | **ကျပ်(သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၃,၂၀၀.၀၀ |
| (ခ) | အသုံးစရိတ် | ၃,၀၀၅.၆၆ |
| (ဂ) | အသားတင်အမြတ် | ၁၉၄.၃၄ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၆၄.၇၈ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၆၀.၀၀ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ ၉ နှစ် ၂ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၇ % ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၃၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနတို့သို့ သဘောထားတောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်းသဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိခြင်းနှင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေသဖြင့် (၇-၁-၂၀၁၆) ရက်နေ့ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁/၂၀၁၆) ဆုံးဖြတ်ချက် အပိုဒ်(၆)အရ ကန့်ကွက်ရန် မရှိကြောင်းနှင့်ဆောင်ရွက်သင့်သည့် လုပ်ငန်းတစ်ခုဖြစ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြု စီမံကိန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက် ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းအစီအမံများ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ (၁%) အားအသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(၂) ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ် အရည်စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ အတိုင်း လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာခြင်းအပေါ် **ကုမ္ပဏီ**မှ (Environmental Management Plan -EMP) ရေးဆွဲ တင်ပြထားပါသည်။

နောက်ဆက်တွဲ (ခ)

(ဂ) စက်မှုဝန်ကြီးဌာနမှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှု

မှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်၊ ကုန်ကြမ်းပစ္စည်းသုံးစွဲမှုနှုန်း တင်ပြချက်များနေသဖြင့် လျှော့နည်းပြင်ဆင် တင်ပြရန်၊ နှစ်အလိုက် ကုန်ကြမ်း လိုအပ်ချက်အားနှစ်အလိုက် ကုန်ချောထုတ်လုပ်မှုနှင့် ကုန်ကြမ်း သုံးစွဲမှုနှုန်း အပေါ် မူတည်၍ ပြင်ဆင် တင်ပြရန် ရန်လိုအပ်ကြောင်း သဘောထား မှတ်ချက် ပြန်ကြားလာခြင်း အပေါ် **ကုမ္ပဏီမှပြန်လည် ပြင်ဆင်ချက်များကို စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီး ဖြစ်ပါသည်။** **နောက်ဆက်တွဲ(ဂ)**

၉။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက်မှ ငွေကြေး အထောက်အထားအဖြစ် Kanbawza Bank, Shwegonedine Branch တွင် ဦးလှမြင့်ရွှေ၊ ဒေါ်အေးမြတ်မွန် အမည်ဖြင့် (၃-၉-၂၀၁၅) နေ့တွင်ငွေ လက်ကျန်ကျပ် ၂၃၇,၆၈၆,၇၉၆.၅၅ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေကျပ် ၂၀ သိန်းအထက် ရရှိသော ဝန်ထမ်းများ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူဖြတ်တောက်၍ အခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ထမင်းစားဆောင်အား သီးသန့်ထားရှိမည်ဖြစ်ပြီး ဧရိယာမှာ ကျယ်ဝန်းသပ်ရပ်၍ စားပွဲနှင့်ထိုင်ခုံများကိုလည်း လုံလောက်စွာ စနစ်တကျထားရှိခြင်း၊ သောက်ရေကို ရေသန့်စက်များဖြင့် ထားရှိခြင်း၊ ဌာနခွဲအလိုက်တူညီဝတ်စုံများ၊ ကျန်းမာရေးအတွက် စက်ရုံအတွင်း First Aid Box များ စီစဉ်ထားရှိခြင်း၊ အချိန်ပိုလုပ်ခနှင့်ခံစားခွင့်များကိုလည်း အလုပ်သမားဝန်ကြီးဌာနမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် ဥပဒေများနှင့်အညီ စီစဉ်ပေးခြင်း၊ ဆုကြေးများ၊ အလုပ်တက်ရက်မှန်ဆုနှင့် အကောင်းဆုံးစွမ်းဆောင်ရည်ဆုများကို တစ်နှစ်လျှင် တစ်ကြိမ်ချီးမြှင့်ပေးမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီးမဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်များဖြင့် ကုန်ထုတ်လုပ်မှုစဉ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏(၁)%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော (၄၄/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၆။ **စိစစ်တင်ပြချက်**

(က) **မူလ** သဘောတူစာချုပ်အား အထည်အလိပ်လုပ်ငန်းအမည်ဖြင့် ၃၀-၁၀-၂၀၁၃ ရက်နေ့တွင် ချုပ်ဆိုခဲ့ပြီး ပင်မ စက်ရုံအပါအဝင် စက်မှုဆိုင်ရာအဆောက်အဦ (၁၁) လုံး၊ ဝန်ထမ်းအိမ်ယာ အဆောက်အဦ (၄) လုံးပါရှိပါသည်။ ငှားရမ်းခ အနေဖြင့် မြေနှင့် စက်ရုံအဆောက်အဦများ အပါအဝင် တစ်နှစ်လျှင် ကျပ် ၄၀၀.၀၀ သန်းဖြင့် ၁-၁၁-၂၀၁၃ ရက်နေ့မှစ၍ ၁၀ နှစ် ဖြစ်ပြီး သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် ငှားရမ်းခဲ့ခြင်း ဖြစ်ပါသည်။

(ခ) **ပထမအကြိမ်** ပြင်ဆင်ချက် သဘောတူစာချုပ်အား ၃၀-၇-၂၀၁၄ နေ့တွင် ချုပ်ဆိုခဲ့ပြီးအထည်အလိပ်လုပ်ငန်းအမည်မှ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း အမည်ဖြင့် ပြင်ဆင် ချုပ်ဆိုခြင်း ဖြစ်ပါသည်။ ငှားရမ်းခအနေဖြင့် မြေနှင့် စက်ရုံ အဆောက်အဦများ အပါအဝင် တစ်နှစ်လျှင် ကျပ် ၄၀၀.၀၀ သန်း ဖြင့် ၁-၁၁-၂၀၁၃ ရက်နေ့မှ ၃၁-၁၀-၂၀၄၃ ရက်နေ့အထိ ၃၀ နှစ် ငှားရမ်းခဲ့ခြင်း ဖြစ်ပါသည်။

(ဂ) **ဒုတိယအကြိမ်** ပြင်ဆင်ချက် သဘောတူစာချုပ်အား ၂၉-၇-၂၀၁၅ နေ့တွင် ချုပ်ဆိုခဲ့ပြီး မြေနှင့် စက်ရုံ အဆောက်အဦ (၉) လုံး (ဝင်းသူဇာ အရောင်းဆိုင် အဆောက်အဦ (၁) လုံး အပါအဝင်) ငှားရမ်းခ အနေဖြင့် မြေနှင့်စက်ရုံ အဆောက်အဦများ အပါအဝင် တစ်နှစ်လျှင် ကျပ် ၄၆၀.၄၀၀ သန်း ဖြင့် ၁-၁၁-၂၀၁၃ ရက်နေ့မှ ၃၁-၁၀-၂၀၄၃ ရက်နေ့အထိ ၃၀ နှစ် ငှားရမ်းခဲ့ခြင်း ဖြစ်ပါသည်။

(ဃ) **တတိယအကြိမ်** ပြင်ဆင်ချက် သဘောတူစာချုပ်၏ သက်တမ်းသည် ၂၀၁၃ ခုနှစ် နိုဝင်ဘာလ ၁ ရက်နေ့မှ ၂၀၆၃ ခုနှစ် အောက်တိုဘာလ ၃၁ ရက်နေ့အထိ ကနဦး ၅၀ နှစ်ဖြစ်ပြီး စာချုပ်သက်တမ်းကုန်ဆုံး၍သက်တမ်းတိုးပါက တစ်ကြိမ် လျှင် ၁၀ နှစ်ဖြင့် ၂ ကြိမ် သက်တမ်းတိုး ဆောင်ရွက်ခွင့်အတွက် ပြင်ဆင်ချုပ်ဆို မည်ဖြစ်ပါသည်။ ငှားရမ်းခအနေဖြင့် မြေနှင့် စက်ရုံ အဆောက်အဦများ အပါအဝင် တစ်နှစ်လျှင် ကျပ် ၄၆၀.၄၀၀ သန်း ဖြင့် ငှားရမ်းခဲ့ခြင်း ဖြစ်ပါသည်။

(င) ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက်သည် မြေယာ အသုံးချမှု ပရီမီယံကြေး အဖြစ် ကျပ် (၅.၀၀) သန်းအား ၅-၃-၂၀၁၅ ရက်စွဲပါ ပြေစာဖြင့် အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းသို့ ပေးသွင်းပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

(စ) ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက်သည် တစ်နှစ် ငှားရမ်းခ၏ ၁၀% နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှု အာမခံ (Performance Bank Guarantee)အဖြစ် ကျပ် ၄၁.၀၀ သန်းအား ၁၂-၉-၂၀၁၄ ရက်စွဲပါ ပြေစာဖြင့် အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းသို့ပေးသွင်းပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

(ဆ) အဆောက်အဦ ၉ လုံး ပါရှိသည့်အနက်မှ ၂၅၆ ပေ × ၁၅၉ ပေ × ၂၀ ပေ အကျယ်အဝန်းရှိသော ပင်မစက်ရုံအဆောက်အဦ အမှတ် ၂ တွင် လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဇ) ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက်သည် စက်ရုံမှထုတ်သော Sanitary Napkin (i Care အမှတ်တံဆိပ်)အား စာချုပ်စာတမ်း မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ထားရှိပြီးဖြစ်ကြောင်း တင်ပြထားပါ သည်။

(ဈ) ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီ လီမိတက်သည် (၁-၁၀-၂၀၁၅)ရက်စွဲဖြင့် ၂၀၁၅-၂၀၁၆ စည်းကြပ်နှစ် အတွက် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၄,၁၉၄,၀၃၀ နှင့် ဝင်ငွေခွန်ကျပ် ၂၁,၆၅၅,၈၈၅ ပေးဆောင်ပြီးဖြစ်ကြောင်း အထောက်အထားများ တင်ပြထားပါသည်။

(ည) ယခုထုတ်လုပ်နေသည့် ထုပ်ပိုးမှု စနစ်ကို Auto Packing & Sealing Machine ၅ လုံး ထပ်မံဖြည့်တင်းပြီး ထုတ်လုပ်ခြင်းဖြင့် ပိုမိုသန့်ရှင်းလျှင်မြန်စွာ ထုတ်လုပ်နိုင်မည်ဖြစ်ကြောင်း၊ ယခု ထုတ်လုပ်သော ပုံစံ ၅ မျိုးအနက်မှ ပိုမို နူးညံ့သော ပုံစံသစ် ၃ မျိုးကိုလည်း Mould အသစ် ၃ လုံးထပ်မံမှာယူပြီး တိုးချဲ့ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ အမွှေးရနံ့ပါသည့် Product တစ်မျိုးကိုလည်း တင်ပြထားသည့် ပုံစံအတိုင်း ထုတ်လုပ်မည်ဖြစ်ကြောင်း နှင့် ကုန်ချောအရည် အသွေးစစ်ဆေးနိုင်သည့် Moisture Content Meter၊ Weighting Machine၊ Centrifugal Machine စသောစက်များကိုလည်း ဝယ်ယူပြီး စစ်ဆေးသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ယူနိုက်တက် ပစိဖိတ် ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှု လုပ်ငန်း (ယခင် အထည်အလိပ်လုပ်ငန်း) ပိုင် အမှတ်(၁) အထည်စက်ရုံခွဲ (မရမ်းကုန်း)၊ ၇ မိုင် ၇ ဖာလုံ၊ ၃ ရပ်ကွက်၊ အင်းစိန်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ (၆.၉၅) ဧက (၂၈,၁၂၅.၆၇၇ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍

နိုင်ငံတကာ အဆင့်မီ နည်းပညာဖြင့် အမျိုးသမီး ကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂. ၁၂. ၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၃/ န-၁၂၉၄/၂၀၁၅(၁၇၈၇)

၁။ ယူနိုက်တက်ပစိဖိတ် ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းပိုင် မြေဧရိယာ(၆. ၉၅)ဧက (၂၈,၁၂၅. ၆၇၇ စတုရန်းမီတာ)ကျယ်ဝန်းသော အမှတ်(၁)အထည်စက်ရုံခွဲ (မရမ်းကုန်း)၊ (၃)ရပ်ကွက်၊ ၇ မိုင် ၇ ဖာလုံ၊ အင်းစိန်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေနှင့်အဆောက်အဦတို့အား ငှားရမ်း၍ နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီးကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးမှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၂၀၄)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် အမှတ်(၁)အထည်စက်ရုံခွဲ (မရမ်းကုန်း)၊ (၃)ရပ်ကွက်၊ ၇ မိုင် ၇ ဖာလုံ၊ အင်းစိန်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၆. ၉၅)ဧကအား မြေငှားရမ်းခတစ်နှစ်လျှင်(၄၆၀. ၄)သန်း၊ (1sqft=1521 kyats, 1sqm=16364.43 kyats)နှုန်းဖြင့် ကနဦး(၅၀)နှစ်နှင့် သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၇. ၁. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၆)အရ ယူနိုက်တက်ပစိဖိတ် ကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မရမ်းကုန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ယူနိုက်တက်ပစိဖိတ်ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Catinet/1.,(5)

M-040
8/1

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၀/MIC(OSS)/ECD/၀၁(၈၄၊၂၆ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ယူနိုက်တက်ပစိဖိတ်ကုမ္ပဏီလီမိတက်မှအမျိုးသမီးကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးမှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁၂-၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက-၃/မ-၁၂၉၄/၂၀၁၅(၁၇၈၆)

၁။ ယူနိုက်တက်ပစိဖိတ်ကုမ္ပဏီလီမိတက်မှ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းပိုင် မြေဧရိယာ(၆.၉၅)ဧက (၂၈၁၂၅.၆၇၇စတုရန်းမီတာ)ကျယ်ဝန်းသော အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)၊ (၃)ရပ်ကွက်၊ (၇)မိုင်(၇)ဖာလုံ၊ အင်းစိန်လမ်း မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေနှင့်အဆောက်အဦးအားငှားရမ်း၍ နိုင်ငံတကာအဆင့်မီနည်းပညာဖြင့် အမျိုးသမီးကျန်းမာရေးသုံးပစ္စည်းထုတ်လုပ်ဖြန့်ဖြူးမှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ်(၅၀)ဖြစ်ပြီး(၁၀)နှစ် သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း မီးဘေးလုံခြုံရေးအစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးအစီအစဉ်များ ကိုဆောင်ရွက်သွားမည်ဖြစ်ကြောင်းလုပ်ငန်းမှရရှိလာမည့် အမြတ်ငွေ၏(၁%)အား လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်

ပတ်သက်၍ ထွက်ရှိလာမည့်အမှိုက်များကို စနစ်တကျစီမံစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ရေဆိုးများအားစနစ်တကျစွန့်ပစ်၍ရေစီးရေလာကောင်းမွန်စေပြီး အနံ့အသက်များကင်းစင်အောင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ အမျိုးသမီးကျန်းမာရေးသုံးပစ္စည်းထုတ်လုပ်မှုလုပ်ငန်းစဉ်မှ ထွက်ရှိလာသည့် ဖြတ်စ၊ ညှပ်စ၊ အလေအလွင့်စွန့်ပစ်ပစ္စည်းများမှာ ဆွေးမြေ့လွယ်သောပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုကိုဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ယူနိုင်တက်ပစိဖိတ်ကုမ္ပဏီလီမိတက်မှ အမျိုးသမီးကျန်းမာရေးသုံးပစ္စည်းထုတ်လုပ်ဖြန့်ဖြူးမှုလုပ်ငန်းနှင့်ပတ်သက်၍အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုစီမံကိန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုများကိုရှောင်ရှားနိုင်ရန်အတွက်လုပ်ငန်းအစီအမံများ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏(၁%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုများမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများ အတွက်သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ် (Environmental Management Plan–EMP) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

NPT-119
12.1.2016

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊၂၁-စမ(၂)၂၀၁၅-၂၀၁၆(၃၅၃၁)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်

M-060
13/1/16

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၁၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃ / မ-၁၂၉၄/ ၂၀၁၅ (၁၇၈၈)

၁။ United Pacific Co.,Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အင်းစိန်လမ်း၊ ၇ မိုင် ၇ ဖာလုံ၊ ၃ ရပ်ကွက်၊ အမှတ်(၁)အထည်စက်ရုံခွဲ (မရမ်းကုန်း)တွင် နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီးကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးမှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် နိုင်ငံတကာအဆင့်မီ နည်းပညာဖြင့် အမျိုးသမီးကျန်းမာရေးသုံးပစ္စည်း ထုတ်လုပ်ဖြန့်ဖြူးမှုလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား တင်ပြချက် ဆီလျော်မှု ရှိပါသည်။

# UNITED PACIFIC COMPANY LIMITED

## (2014-2015)

Schedule ( 18 )

### Prepaid Commercial Tax

| | | | Amount (Kyats) |
|---|---|---|---|
| (1) | Opening Balance ( 1-4-14 ) | | 33,100,000.00 |
| (2) | ( Add ) Cash | | |
| | For 2014-15 Assement Year ( KaTha-116 ) | 02-Feb-15 | 2,407,834.00 |
| | For 2015-16 Assement Year ( KaTha-116 ) | 12-Mar-15 | 400,000.00 |
| | For 2015-16 Assement Year ( KaTha-116 ) | 16-Jan-15 | 400,000.00 |
| | For 2015-16 Assement Year ( KaTha-116 ) | 26-Sep-14 | 400,000.00 |
| | For 2015-16 Assement Year ( KaTha-116 ) | 26-Aug-15 | 200,000.00 |
| | For 2015-16 Assement Year ( KaTha-116 ) | 19-Jun-14 | 400,000.00 |
| | TOTAL | | 37,307,834.00 |
| (3) | (Less) Profit & Loss Adjustment A/C | | (35,507,834.00) |
| | TOTAL | | 1,800,000.00 |

Schedule (19 )

### Provision for Income Tax

| | | Amount (Kyats) |
|---|---|---|
| (1) | Opening Balance ( 1-4-14 ) | 4,520,420.78 |
| (2) | ( Add ) Provision for Income Tax ( 14 - 15 ) | 772,186.90 |
| | TOTAL | 5,292,607.68 |
| (3) | (Less) Profit & Loss Adjustment A/C | (4,520,420.78) |
| | TOTAL | 772,186.90 |

Schedule (20 )

### Account Payable

| | | Amount (Kyats) |
|---|---|---|
| (1) | Accounting & Auditing Fees | 50,000.00 |
| | TOTAL | 50,000.00 |

# UNITED PACIFIC COMPANY LIMITED

## Fixed Assets & Depreciation As At 31st March 2015

| No. | Particulars | Prime Cost | Addition | Total | Rate % | Depreciation Up to 31.3.2014 | Depreciation During | Depreciation Total | Book Value at 31.3.15 |
|---|---|---|---|---|---|---|---|---|---|
| | **OFFICE** | | | | | | | | |
| 1 | Land | 10,287,000.00 | - | 10,287,000.00 | | | - | | 10,287,000.00 |
| 2 | Furniture | 319,000.00 | - | 319,000.00 | 5% | 151,200.00 | 15,950.00 | 167,150.00 | 151,850.00 |
| 3 | Computer | 3,750,000.00 | | 3,750,000.00 | 10% | 3,375,000.00 | 375,000.00 | 3,750,000.00 | - |
| 4 | Vehicle | 62,260,000.00 | - | 62,260,000.00 | 12.5% | 62,259,999.00 | - | 62,259,999.00 | 1.00 |
| | **Total** | 76,616,000.00 | - | **76,616,000.00** | | 65,786,199.00 | **390,950.00** | 66,177,149.00 | **10,438,351.00** |
| | **MOTOR VEHICAL** | | | | | | | | |
| 1 | Motor Car (37 Pcs) | 191,000,000.00 | 195,500,000.00 | 386,500,000.00 | 12.5% | 23,875,000.00 | 23,875,000.00 | 47,750,000.00 | 338,750,000.00 |
| | | 191,000,000.00 | **195,500,000.00** | **386,500,000.00** | | 23,875,000.00 | **23,875,000.00** | **47,750,000.00** | **338,750,000.00** |
| | **FACTORY** | | | | | | | | |
| 1 | Automatic Filling & Packing | 2,607,700.00 | - | 2,607,700.00 | 10% | 2,607,699.00 | - | 2,607,699.00 | 1.00 |
| 2 | Mini Shrinking Machine | 182,500.00 | - | 182,500.00 | 10% | 182,499.00 | - | 182,499.00 | 1.00 |
| 3 | Auto Impluse Sealer | 109,800.00 | - | 109,800.00 | 10% | 109,799.00 | - | 109,799.00 | 1.00 |
| 4 | Liquid Filling Machine for Bottle Tube | 287,600.00 | - | 287,600.00 | 10% | 287,599.00 | - | 287,599.00 | 1.00 |
| 5 | Toilet Soap Making Machine Accessorie | 3,862,300.00 | - | 3,862,300.00 | 10% | 3,862,299.00 | - | 3,862,299.00 | 1.00 |
| 6 | Stamping Machine | 10,500.00 | - | 10,500.00 | 10% | 10,499.00 | - | 10,499.00 | 1.00 |
| 7 | Factory | 20,000,000.00 | - | 20,000,000.00 | 5% | 13,200,000.00 | 1,000,000.00 | 14,200,000.00 | 5,800,000.00 |
| 8 | Telephone | 27,000.00 | - | 27,000.00 | 10% | 18,900.00 | 2,700.00 | 21,600.00 | 5,400.00 |
| 9 | Motor | 44,197,220.00 | - | 44,197,220.00 | 10% | 26,518,332.00 | 4,419,722.00 | 30,938,054.00 | 13,259,166.00 |
| 10 | Furniture | 2,463,706.00 | - | 2,463,706.00 | 10% | 1,478,223.60 | 246,371.00 | 1,724,594.60 | 739,111.40 |
| 11 | Machine | 18,821,368.20 | - | 18,821,368.20 | 10% | 4,347,554.42 | 1,882,137.00 | 6,229,691.42 | 12,591,676.78 |
| 12 | Soap Machine & Spare Part | | 2,191,111.50 | 2,191,111.50 | 10% | | 219,111.00 | 219,111.00 | 1,972,000.50 |
| | | 92,569,694.20 | 2,191,111.50 | **94,760,805.70** | | 52,623,404.02 | **7,770,041.00** | **60,393,445.02** | 34,367,360.68 |
| | **Cream Machine** | | | | | | | | |
| 13 | Liquid & Accessories Cream Machine | 11,237,550.00 | - | 11,237,550.00 | 10% | 7,866,285.00 | 1,123,755.00 | 8,990,040.00 | 2,247,510.00 |
| 14 | Liquid Packing Machine | 3,210,000.00 | - | 3,210,000.00 | 10% | 1,926,000.00 | 321,000.00 | 2,247,000.00 | 963,000.00 |
| 15 | Liquid Packing Machine | 1,670,000.00 | - | 1,670,000.00 | 10% | 1,002,000.00 | 167,000.00 | 1,169,000.00 | 501,000.00 |
| 16 | Machine & Other Accessories | 381,819,383.56 | | 381,819,383.56 | 10% | 149,490,906.24 | 38,181,938.00 | 187,672,844.24 | 194,146,539.32 |
| 17 | Brand New Machine & Spare Part | 44,264,126.00 | - | 44,264,126.00 | 10% | 4,426,412.60 | 4,426,413.00 | [illegible] | 35,411,300.40 |
| | Total | 442,201,059.56 | - | 442,201,059.56 | | 164,711,603.84 | 44,220,106.00 | 208,931,709.84 | 233,269,349.72 |
| | Grand Total | 802,386,753.76 | 197,691,111.50 | 1,000,077,865.26 | | 306,996,206.86 | 76,256,097.00 | [illegible] | 616,825,561.40 |

# UNITED PACIFIC COMPANY LIMITED

## Cash (Kyat) Receipt & Payment Statement

## ( 2014 - 2015 )

| Sr. No. | Particulars | Amount (Kyats) |
|---|---|---|
| | **Receipt** | |
| 1 | Opening Balance | 199,246,792.86 |
| 2 | Income | 989,194,360.00 |
| 3 | Profit & Loss Adjustment ( Non Permissible Expenses ) | 176,395,404.86 |
| 4 | Import Sale | 164,721,461.00 |
| | Grand Total | **1,529,558,018.72** |
| | **Payment** | |
| 1 | Kyat to FEC Exchange Cost | 312,120,000.00 |
| 2 | Import Cost | 21,595,199.78 |
| 3 | Administration Expenses | 33,945,732.00 |
| 4 | Selling & Distribution Expenses | 35,463,963.00 |
| 5 | Production Cost | 45,869,716.80 |
| 6 | Accrued Auditing & Accounting Fees (13-14) | 50,000.00 |
| 7 | Income Tax (14-15 Assement Year) | 5,616,199.00 |
| 8 | Commercial Tax ( 14-15 Assement Year )for Production | 2,407,834.00 |
| 9 | Commercial Tax ( 14-15 Assement Year ) | 1,218,257.00 |
| 10 | Prepaid for Commercial Tax ( 15-16 Assement Year ) | 1,800,000.00 |
| 11 | Prepaid Income Tax (2%) For 15-16 | 5,984,399.20 |
| 12 | Purchase for Fixed Assets ( Car ) | 195,500,000.00 |
| | Grand Total | **661,571,300.78** |
| | Closing Cash Balance | 867,986,717.94 |
| | Total | **1,529,558,018.72** |

## UNITED PACIFIC COMPANY LIMITED

### Income Tax Adjustment Statement

| Sr No | Finical Year | Assement Year | Assement Income | Net Show Amount + / ( - ) | Non Permissible Amount | Income Tax |
|---|---|---|---|---|---|---|
| 1 | 2 | 3 | 4 | 5 | 6 = 4-5 | 7 |
| 1 | 13 - 14 | 14 - 15 | 194,477,088.00 | 18,081,683.14 | 176,395,404.86 | 48,619,272.00 |
| | Total | | **194,477,088.00** | **18,081,683.14** | **176,395,404.86** | **48,619,272.00** |

# အမှတ်(၁)အထည်စက်ရုံခွဲ (မရမ်းကုန်း)

## Factory Layout Plan




- မူလငှားရမ်းထားသော မြေဧရိယာ (၆. ၉၅) ဧကနှင့် အဆောက်အဦ(၉)လုံး
- ထပ်မံငှားရမ်းလိုသော မြေဧရိယာ (၀. ၈၅) ဧကနှင့် အဆောက်အဦ(၄)လုံး
- စုစုပေါင်း မြေဧရိယာ (၇. ၈၀) ဧက

စက်မှုဝန်ကြီးဌာန

အထည်အလိပ်လုပ်ငန်း

နှင့်

**United Pacific Co.,Ltd.**

တို့

ချုပ်ဆိုသော

# အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအား ငှားရမ်းသည့် သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ( ၃၀ ) ရက်

စက်မှုဝန်ကြီးဌာန

အထည်အလိပ်လုပ်ငန်း

နှင့်

**United Pacific Co.,Ltd.**

တို့

ချုပ်ဆိုသော

အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအား ငှားရမ်းသည့် သဘောတူစာချုပ်

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ(၃၀)ရက်နေ့၌ ဦးစိုးလှိုင်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အထည်အလိပ်လုပ်ငန်း၊ စက်မှုဝန်ကြီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်တွင်စေပြီး၊ ယင်းဖော်ပြချက်တွင် ၎င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်)က တစ်ဖက်

နှင့်

ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၈၆)၊ ဖန်ချက်ဝန်ဦးရွှေအိုးလမ်း၊ ရွှေပြည်သာ၊ စက်မှုဇုန်(၃)နေ ဦးလှမြင့်ရွှေ၊ Managing Director ကိုယ်စားပြုသော United Pacific Co.,Ltd. (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူ များပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးနှစ်ဖက်သဘောတူ စာချုပ်ချုပ်ဆိုကြပါသည်။

ရည်ရွယ်ချက်

၁။ "အငှားချထားသူ"ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အင်းစိန်လမ်း(၇)မိုင် (၇)ဖာလုံ၊ (၃)ရပ်တွက်ရှိ အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)ကို "အငှားချထားခြင်းခံရသူ"မှ ငှားရမ်း ပြီး အထည်အလိပ်လုပ်ငန်းနှင့်ဆက်စပ်သည့် လုပ်ငန်းများဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ဤစက်ရုံ ငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်သည်။

အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၂။ "အငှားချထားသူ" သည် နောက်ဆက်တွဲတွင် အသေးစိတ်ဖော်ပြထားသော စက်ရုံ၊ မြေနှင့် အဆောက်အဦများကို ပိုင်ဆိုင်သူ ဖြစ်ပါသည်။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများ ဖြစ်ကြောင်းကို အသီးသီး အာမခံကြပါသည်။

၃။ အငှားချထားမည့် နေရာ၊ မြေနှင့်အဆောက်အဦများ

| | | | |
|---|---|---|---|
| (က) | စက်ရုံအမည် | - | အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း) |
| | တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး မရမ်းကုန်းမြို့နယ်၊ အင်းစိန်လမ်း၊ (၇)မိုင် (၇)ဖာလုံ၊ (၃)ရပ်ကွက်တွင် တည်ရှိပါသည်။ |
| (ခ) | မြေ(ဧက) | - | စက်ရုံနှင့်ဝန်ထမ်းအိမ်ယာအပါအဝင် စုစုပေါင်းဧရိယာ (၆. ၉၅) ဧက<br>မြေပုံကို နောက်ဆက်တွဲ(က)ဖြင့် ပူးတွဲဖော်ပြထားပါသည်။ |
| (ဂ) | အဆောက်အဦ | - | ပင်မစက်ရုံအပါအဝင် စက်မှုဆိုင်ရာအဆောက်အဦ(၁၁)လုံး၊ ဝန်ထမ်းအိမ်ယာအဆောက်အဦ(၄)လုံး၊ နောက်ဆက်တွဲ(ခ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။ |

ငှားရမ်းမည့်အချိန်ကာလ

၄။ ငှားရမ်းမည့်အချိန်ကာလမှာ ၂၀၁၃ခုနှစ်၊ နိုဝင်ဘာလ(၁)ရက်နေ့မှစ၍ (၁၀)နှစ်ဖြစ်ပြီး နောက်ထပ် (၅)နှစ်(၂)ကြိမ် သက်တမ်းတိုး ဆောင်ရွက်နိုင်သည်။

ဆိုင်းငံ့ကာလသတ်မှတ်ခြင်း

၅။ ပြင်ဆင်ချိန်ကာလ(၃)လအား ဆိုင်းငံ့ကာလအဖြစ် သတ်မှတ်ပြီး အဆိုပါ ကာလအတွင်း ကုန်ကြမ်းပစ္စည်းများ စုဆောင်းခြင်း၊ စက်များ ပြင်ဆင်ခြင်း ဆောင်ရွက်နိုင်ရန် ဖြစ်ပါသည်။ သို့ရာတွင် ဝန်ထမ်းလစာနှင့် အခြားကုန်ကျစရိတ်များအား "အငှားချထားခြင်းခံရသူ"မှ ငှားရမ်းသည့်နေ့မှစ၍ ပေးချေရမည်။

ငှားရမ်းခနှုန်းထား

၆။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါ စက်ရုံ မြေနှင့် အဆောက်အဦများအပါအဝင် တစ်နှစ်လျှင် ကျပ် (၄၁၀. ၀၀၀)သန်း (ကျပ်လေးရာတစ်ဆယ်သန်းတိတိ) ဖြစ်သည်။

ငှားရမ်းခပေးချေခြင်း

၇။ "အငှားချထားခြင်းခံရသူ"သည် (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကျပ် (၁၀၂. ၅၀၀)သန်း (ကျပ် တစ်ရာ့နှစ်သန်း ငါးသိန်းတိတိ)ကို (၃)လလျှင် တစ်ကြိမ် ပေးသွင်းရမည်။ (၃)လအတွက် ငှားရမ်းခကို ပထမလအတွင်း ကြိုတင်ပေးသွင်းရမည်။

နောက်ကျကြေးပေးသွင်းခြင်း

၈။ ငှားရမ်းခအား သတ်မှတ်ရက်အတွင်း ပေးသွင်းရန် ပျက်ကွက်ပါက (၁)ပတ်နောက်ကျတိုင်း (၃)လ အတွက် ငှားရမ်းခ၏ ၁%ကို ဒဏ်ကြေးအဖြစ် ပေးသွင်းရမည်။ သတ်မှတ်ချိန်ကျော်လွန်ပြီး (၃)လ ကြာသည်အထိ ငှားရမ်းခသတ်မှတ်ငွေကို ပေးသွင်းခြင်းမရှိပါက စာချုပ်ကို ရုပ်ဆိုင်းပြီး စက်ရုံအား ဝန်ကြီးဌာနမှ ပြန်လည်လွှဲပြောင်းရယူမည်။

ငှားရမ်းခပြင်ဆင်သတ်မှတ်ခြင်း

၉။ "အငှားချထားသူ"နှင့်"အငှားချထားခြင်းခံရသူ" သည် နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် ငှားရမ်းခနှုန်းထား တိုးမြှင့်ပြင်ဆင်သတ်မှတ်ခြင်းကို နှစ်စဉ် ဈေးနှုန်းညှိနှိုင်းပြီး နှစ်စဉ်ငှားရမ်းခနှုန်း ၁၀%မှ ၁၅%ထက် မပိုသောနှုန်းထားဖြင့် စက်မှုဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူ၍ ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

စာချုပ်သက်တမ်း

၁၀။ သဘောတူစာချုပ်၏ သက်တမ်းသည် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ(၁)ရက်နေ့မှ ၂၀၂၃ ခုနှစ်၊ အောက်တိုဘာလ(၃၁)ရက်နေ့အထိ (၁၀)နှစ်(တစ်ဆယ်နှစ်) ဖြစ်ပါသည်။

စာချုပ်အတည်ဖြစ်ခြင်း

၁၁။ ဤသဘောတူစာချုပ်သည် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ လက်မှတ် ရေးထိုးပြီးသည့်နေ့မှစ၍ အတည်ဖြစ်သည်။

စာချုပ်ပြင်ဆင်ခြင်း

၁၂။ ဤသဘောတူစာချုပ်ပါ စည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံ ဖြည့်စွက် ပြုလုပ်လိုပါက "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၏ အတည်ပြုချက်ရယူ ဆောင်ရွက်နိုင်သည်။

၁၃။ "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့သည် စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှုမရှိခြင်းကြောင့်ဖြစ်စေ၊ အခြားသောအဆင်မပြေမှုများရှိခြင်းကြောင့်ဖြစ်စေ နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးမည်ဆိုပါက (၃)လကြိုတင်အကြောင်းကြားရမည်။

စာချုပ်အကျိုးသက်ရောက်မှု

၁၄။ ဤသဘောတူစာချုပ်သည် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုး သည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

စာချုပ်သက်တမ်းတိုးခြင်း

၁၅။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် အငှားချ စက်ရုံနှင့်မြေကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ်ငှားရမ်းလိုသည့်ကာလနှင့် ငှားရမ်းခနှုန်းထားကို ဖော်ပြလျက် စာချုပ်သက်တမ်း တိုးမြှင့်ပေးပါရန် "အငှားချထားသူ"ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ (၃)လကြိုတင်၍စာဖြင့်တင်ပြရမည်။

စက်ရုံလွှဲပြောင်း/လက်ခံခြင်း

၁၆။ အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း) မြေ၊ အဆောက်အဦနှင့် လက်ရှိတာဝန်ထမ်းဆောင် လျက်ရှိသော ဝန်ထမ်း(၃၆၅)ဦးအပြင် ဖွဲ့စည်းပုံအရရှိနေသော ဝန်ထမ်း(၅၃)ဦး စုစုပေါင်းဝန်ထမ်း (၄၁၈)ဦးအား ဤသဘောတူစာချုပ် သက်တမ်းစတင်သည့်ရက်နေ့မှစ၍ လွှဲပြောင်း/လက်ခံခြင်းအား နှစ်ဦးနှစ်ဖက် ဆောင်ရွက်ရမည်။

လွှဲပြောင်းပေးမည့်ဝန်ထမ်းများ

၁၇။ လွှဲပြောင်းပေးမည့် ခွင့်ပြုအင်အားမှာ (၄၁၈)ဦးရှိပြီး အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | လစာနှုန်း | | ဦးရေ |
|---|---|---|---|
| (က) | ၁၆၀၀၀၀-၂၀၀၀-၁၇၀၀၀၀ | လ/ထအထွေထွေမန်နေဂျာ | ၁ |
| (ခ) | ၁၄၀၀၀၀-၂၀၀၀- ၁၅၀၀၀၀ | မန်နေဂျာ | ၃ |
| (ဂ) | ၁၂၀၀၀၀-၂၀၀၀- ၁၃၀၀၀၀ | လ/ထမန်နေဂျာ | ၆ |
| (ဃ) | ၈၅၀၀၀-၁၀၀၀-၉၀၀၀၀ | စုမှူး | ၁၆ |
| (င) | ၇၉၀၀၀-၁၀၀၀- ၈၄၀၀၀ | စိတ်မှူး | ၂၇ |
| (စ) | ၇၃၀၀၀-၁၀၀၀- ၇၈၀၀၀ | ထုတ်/ကျွမ်း(၃) | ၃၆ |
| (ဆ) | ၆၇၀၀၀-၁၀၀၀- ၇၂၀၀၀ | ထုတ်/ကျွမ်း(၄) | ၂၇၈ |
| (ဇ) | ၆၁၀၀၀-၁၀၀၀-၆၆၀၀၀ | ထုတ်/ကျွမ်း(၅) | ၂၈ |
| (ဈ) | ၅၅၀၀၀-၁၀၀၀-၆၀၀၀၀ | လုပ်သား | ၃ |
| (ည) | ၂၇၀၀၀/- | နေ့စား | ၂၀ |
| | စုစုပေါင်း | | ၄၁၈ |

ဝန်ထမ်းရေးရာကိစ္စရပ်များ

၁၈။ လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့် ပတ်သက်၍ "အငှားချထားခြင်းခံရသူ"မှ အောက်ပါ စည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-

(က) နိုင်ငံ့ဝန်ထမ်းအဖြစ် တာဝန်ထမ်းဆောင်ခြင်း

(၁) စက်ရုံရှိ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို နိုင်ငံတော်က သတ်မှတ်ထားသည့်လ၏ နောက်ဆုံးရက်(သို့မဟုတ်) ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီရက်တွင် လစာထုတ်ပေးရမည်။

(၂) နိုင်ငံ့ဝန်ထမ်းများ၏ ခံစားရရှိသည့် အခွင့်အရေးများအတိုင်း ဝန်ထမ်းလစာနှင့်အပို ထောက်ပံ့ကြေးများကို ရရှိခံစားစေရမည်။

(၃) "အငှားချထားခြင်းခံရသူ" သည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား နှစ်ဦးနှစ်ဖက်ညှိနှိုင်းသဘောတူညီချက်ဖြင့် ဆက်လက် တာဝန်ပေးအပ်ရမည်။

(၄) နိုင်ငံ့ဝန်ထမ်းများဖြစ်နေသည့်ကာလအတွင်း ရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်း၊ ခန့်ထားခြင်း၊ နုတ်ထွက်ခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များအား နိုင်ငံတော်မှထုတ်ပြန်ထားသည့် အမိန့်၊ စည်းမျဉ်း၊ နိုင်ငံ့ဝန်ထမ်းဥပဒေ၊ အလုပ်သမားဥပဒေအပါအဝင် တည်ဆဲ ဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

(၅) ဝန်ထမ်းများ၏လစာ၊ နှစ်တိုး၊ စရိတ်များအား နိုင်ငံတော်မှ ချမှတ်ထားသော အမိန့်ညွှန်ကြားချက်များနှင့်အညီ ခွင့်ပြုနှုန်းထားများအတိုင်း "အငှားချထားခြင်းခံရသူ"မှ ဆက်လက်ပေးဆောင်ရမည်။ ဝန်ထမ်းများ၏အကျိုးငှာ နိုင်ငံတော်မှ ထောက်ပံ့ပေးသော စရိတ်များအပြင် သက်သာချောင်ချိရေးကိစ္စများ၊ အခြားသောစရိတ်များနှင့် ဆုကြေးများအား "အငှားချထားခြင်းခံရသူ" မှ သင့်လျော်သလို ပေးနိုင်သည်။

(၆) စက်ရုံလွှဲပြောင်းသောအခါ ပါရှိသော ဝန်ထမ်းများအနက် ရာထူးမှနုတ်ထွက်လိုခြင်း၊ နှစ်ပြည့်(သို့မဟုတ်)သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက "အငှားချထားသူ"ထံ တင်ပြရမည်။

(၇) ဝန်ထမ်းများ၏ လူမှုဖူလုံရေး၊ ဝန်ထမ်းများ အကျိုးခံစားခွင့်ရရှိရေးအတွက် "အငှားချထားခြင်းခံရသူ"မှ အလုပ်သမားဥပဒေ၊ လူမှုဖူလုံရေး ဥပဒေများနှင့်အညီတာဝန်ယူရမည်။

(၈) ဝန်ထမ်းများအလုပ်ခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက ဥပဒေအရ လိုအပ်သည်များကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(၉) ဝန်ထမ်းများ ရာထူးအနွယ်(Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန်အချိန်ကျရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စများကို ဝန်ထမ်း၏စွမ်းဆောင်ရည်နှင့် ကျွမ်းကျင်မှုအပေါ် မူတည်၍ ဆောင်ရွက်ရမည်။

(ခ) ကုမ္ပဏီဝန်ထမ်းအဖြစ် တာဝန်ထမ်းဆောင်ခြင်း

(၁) စက်ရုံဝင်းအတွင်းရှိ ဌာနများနှင့် စက်ရုံပြင်ပရှိ ကုမ္ပဏီ၏ ဆက်စပ်လုပ်ငန်းဌာနများသို့ ဝန်ထမ်းများအား ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်း ဆိုင်ရာ ကိစ္စများကို "အငှားချထားခြင်းခံရသူ"က ဝန်ထမ်းများနှင့် ညှိနှိုင်း၍ ဆောင်ရွက်ခွင့်ရှိသည်။

(၂) ဝန်ထမ်းများအား အငှားချထားသည့် စက်ရုံဝင်းအတွင်းရှိ မြေလွတ်များတွင် ကြိုတင် တင်ပြ၍ ခွင့်ပြုချက်ရရှိသော တည်ဆောက်အကောင်အထည်ဖော်ပြီးစီးမည့် စက်ရုံများနှင့်ပတ်သက်၍ လုပ်ငန်းတာဝန်များကို "အငှားချထားခြင်းခံရသူ"က လိုအပ်သလို တာဝန်ပေးအပ်ရမည်။

(၃) ဝန်ထမ်းအိမ်ယာတွင် နေထိုင်လျက်ရှိသော ဝန်ထမ်းများအား "အငှားချထားခြင်းခံရသူ"၏ ကုမ္ပဏီဝန်ထမ်းအဖြစ် စက်ရုံတွင် ဆက်လက်တာဝန်ထမ်းဆောင်ပါက "အငှားချထားခြင်းခံရသူ"၏ အစီအစဉ်ဖြင့် သင့်တော်သလို ညှိနှိုင်း၍ စီစဉ်ဆောင်ရွက်ပေးရမည်။

(၄) ကုမ္ပဏီဝန်ထမ်းအဖြစ် လွှဲပြောင်းတာဝန်ထမ်းဆောင်ပါက နိုင်ငံတော်မှ သတ်မှတ်ထားသော စက်ရုံ အလုပ်ရုံနှင့် အလုပ်သမားဥပဒေအရ ဆောင်ရွက်ရန်တာဝန်များကို ကုမ္ပဏီမှ အပြည့်အဝဆောင်ရွက်ပေးပြီး၊ ဝန်ထမ်းများအား ကုမ္ပဏီမှ သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့်အညီ စာချုပ်ချုပ်ဆိုဆောင်ရွက်ခွင့်ပြုရမည်။

အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

၁၉။ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေ၊ အဆောက်အဦများ

(၁) မြေနှင့် အဆောက်အဦများကို နောက်ဆက်တွဲပါအတိုင်း ငှားရမ်းဆောင်ရွက်ရမည်။

(၂) စက်ရုံအဆောက်အဦများအား လိုအပ်သည့် ပြင်ဆင်မွမ်းမံခြင်းများ ဆောင်ရွက်ရမည်။

(၃) "အငှားချထားသူ"၏ ကြိုတင်ခွင့်ပြုချက်မရှိဘဲ အဆောက်အဦပိုင်းဆိုင်ရာ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်းများမပြုလုပ်ရ။

(၄) အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများအားလုံးသည် ငှားရမ်းခြင်းစာချုပ်သက်တမ်းကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန် မလိုဘဲ "အငှားချထားသူ" ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ မိမိတပ်ဆင်ထားသော ပစ္စည်းအား အငှားချသည့်အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည် ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်း မပြုမီကတည်းက နှစ်ဖက်ညှိနှိုင်း အတည်ပြုချက်ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့် အခြားရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(၅) ဤသဘောတူစာချုပ်သက်တမ်းကုန်သည့်အခါ အငှားချစက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေ အတိုင်းပြုပြင်မွမ်းမံထိန်းသိမ်း၍ ပြန်လည်လွှဲပြောင်းပေးရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှုရှိသော ပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(၆) အငှားချထားသည့် မြေ၊ အဆောက်အဉီများနှင့်ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်နှင့် အခြား အခွန်အခများ၊ ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ခ) စက်နှင့်စက်ပစ္စည်းများ

(၁) လုပ်ငန်းများတိုးချဲ့ခြင်းနှင့် စက်ပစ္စည်းများ ထပ်မံတိုးချဲ့တပ်ဆင်ခြင်းများကို "အငှားချထားသူ"၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(၂) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီး မီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာထားရှိရမည်။ စက်ရုံ၏သန့်ရှင်းရေး၊ အထွေထွေလုံခြုံရေးတို့ကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။

(ဂ) ကုန်ကြမ်း/ကုန်ချော

(၁) စက်ရုံကို လက်ခံသည့်နေ့တွင် စက်ရုံ၌ ရှိသောကုန်ကြမ်းများ၊ စက်အရန်ပစ္စည်းများ၊ စက်သုံးဆီများ အစရှိသည့် ကုန်ခမ်းနိုင်သည့် ပစ္စည်းများကို ဆက်လက်အသုံးပြုလိုပါက နှစ်ဖက်ညှိနှိုင်း၍ သတ်မှတ်ထားသည့် နှစ်ချုပ်စာရင်းပါတန်ဖိုးဖြင့် ဝယ်ယူပြီး အသုံးပြုနိုင်ခွင့်ရှိသည်။

(၂) ကုန်ချောပစ္စည်းများကို သတ်မှတ်စက်စွမ်းအားထက်မကျော်လွန်စေဘဲ ထုတ်လုပ်ခွင့်ရှိပြီး ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(၃) လုပ်ငန်းနှင့် စက်ရုံရှိ ကုန်ချောပစ္စည်း ကျပ်သန်း(၂၀၀. ၀၀၀)(ကျပ်သန်းနှစ်ရာတိတိ)ဖိုး ကို ဝယ်ယူရန် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး ဝယ်ယူရမည်။ ကျသင့်တန်ဖိုးအား ၂၀၁၄ခုနှစ် မတ်လ(၃၁)ရက်နေ့ နောက်ဆုံးထား၍ ပေးသွင်းရမည်။

(ဃ) အထွေထွေကိစ္စရပ်များ

(၁) "အငှားချထားခြင်းခံရသူ"သည် အထည်အလိပ်လုပ်ငန်းနှင့် ဆက်စပ်သည့် လုပ်ငန်းများကိုသာ ဆောင်ရွက်ရမည်။ အထည်အလိပ်လုပ်ငန်းနှင့်သက်ဆိုင်သော စီးပွားရေးလုပ်ငန်းများကို တိုးချဲ့ဆောင်ရွက်လုပ်ကိုင်လိုပါက စက်မှုဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက်ရယူဆောင်ရွက်ရမည်။

(၂) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်မှစ၍ စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများအားလုံးအား စာရင်းစစ်အစစ်ဆေးခံနိုင်ရေးနှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် စက်ရုံငှားရမ်းမီအချိန်ထိ ရှိသည့်အတိုင်း စနစ်တကျ ထိန်းသိမ်း ဆောင်ရွက်ခွင့်ပြုရမည်။

ကန်ထရိုက်

(၃) အငှားချထားသည့် ပစ္စည်းများကို တဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်း စသည်တို့ လုံးဝမပြုလုပ်ရ။

(၄) အငှားချထားသည့် စက်ရုံ၏အခြေအနေများကိုလည်းကောင်း၊ ကုက်လုဂ်ဖြန့်ဖြူး ရောင်းချသည့် ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက "အငှားချထားသူ"က နည်းလမ်းတကျလုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။

(၅) ဤသဘောတူစာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (၃၀)ရက်အတွင်း "အငှားချထားသူ" အား အငှားချထားသည့်ပစ္စည်းအားလုံးကို ငှားရမ်းသည့်အခြေအနေအတိုင်း အဖိုးစားနား မပါရှိဘဲ "အငှားချထားသူ" လက်ဝယ်အရောက် လွှဲပြောင်းပေးအပ်ရမည်။

(၆) အငှားချထားသည့် စက်ရုံတွင်ခွင့်ပြုထားသည့် လုပ်ငန်းမှအပ ဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

(၇) "အငှားချထားခြင်းခံရသူ"မှ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး "အငှားချထားသူ" ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(၈) အငှားချထားသည့် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မီ ပေးဆောင်ရမည် ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာအထောက်အထားမိတ္တူများအား "အငှားချထားသူ"ထံ လစဉ်ပေးပို့ရမည်။

(၉) အငှားချထားသည့် စက်ရုံ၏ အုပ်ချုပ်မှုနှင့်ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓါတ်ဆီတို့အား "အငှားချထားခြင်းခံရသူ"၏ အစီအမံဖြင့် စီစဉ် ဆောင်ရွက်ရမည်။

(၁၀) အငှားချထားသည့် စက်ရုံအတွက် အလုံးစုံ အာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး၊ အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေး တာဝန်ယူဆောင်ရွက်ရမည်။

(၁၁) မီးအာမခံထားရှိမှုနှင့်ပတ်သက်၍ နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်ထားရှိပြီး "အငှားချထားခြင်းခံရသူ"မှ ပေးသွင်းရမည်။ ပေးသွင်းသည့်အထောက်အထားများကို "အငှားချထားသူ"ထံအပ်နှံထားရှိရမည်။

(၁၂) ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေးကို "အငှားချထားခြင်းခံရသူ"မှ အထည်အလိပ်လုပ်ငန်းသို့ လစဉ်ပေးသွင်းရမည်။

အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၂၀။ "အငှားချထားသူ"၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "အငှားချထားခြင်းခံရသူ"အား အငှားချထားသည့် ပစ္စည်းများကို အသုံးပြု၍ ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ ရေ၊ သဘာဝဓါတ်ငွေ့နှင့် တယ်လီဖုန်းတို့ကို "အငှားချထားခြင်းခံရသူ" အား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဂ) အငှားချထားသည့်စက်ရုံအခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့် ပစ္စည်းများကိုလည်းကောင်း နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များ စေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား "အငှားချထားခြင်းခံရသူ" မှ လစဉ်အချိန်မှီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(င) အငှားချထားသည့် စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့များရရှိရေးအတွက် နိုင်ငံတော်၏ မူဝါဒနှင့်အညီ သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(စ) စက်ရုံအတွက် ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရမည်။

(ဆ) အငှားချထားသည့် စက်ရုံနှင့်သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်းကျော်လွန်မှုမရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

(ဇ) ဝန်ထမ်းများ၏ လူမှုဖူလုံရေး အကျိုးခံစားခွင့်ရရှိရေးအတွက် "အငှားချထားသူ"မှ လိုအပ်သလို အကူအညီပေးရမည်။

(ဈ) လုပ်ငန်းလိုအပ်ချက်အရ နိုင်ငံခြားသား ကျွမ်းကျင်သူပညာရှင်များအား ခေါ်ယူ၍လုပ်ငန်းဆောင်ရွက်ခွင့်ပြုရမည်။ နိုင်ငံခြားသားကျွမ်းကျင်ပညာရှင်များအနေဖြင့် မြန်မာနိုင်ငံအတွင်း နေထိုင်စဉ်ကာလအတွင်း မြန်မာနိုင်ငံ၏သတ်မှတ်ထားသော ဥပဒေများကို လေးစားလိုက်နာရမည်။ "အငှားချထားခြင်းခံရသူ"က အထည်အလိပ်လုပ်ငန်းသို့ လာရောက်လုပ်ကိုင်သည့် နိုင်ငံခြားသားစာရင်းကို တင်ပြရမည်။ အထည်အလိပ်လုပ်ငန်းမှလည်း ၎င်းနိုင်ငံခြားသား ကျွမ်းကျင်သူပညာရှင်များ၏ ပြည်ဝင်ခွင့်(Visa)နှင့် နေထိုင်ခွင့်(Stay)များအတွက် လိုအပ်သော ထောက်ခံချက်များ ဆောင်ရွက်ပေးနိုင်ရန် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

ကုန်အမှတ်တံဆိပ်ဆိုင်ရာကိစ္စ

၂၁။ မိမိ၏ ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကိုချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် "အငှားချထားခြင်းခံရသူ"၏ တာဝန်သာဖြစ်သည်။

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေးဆိုင်ရာကိစ္စ

၂၂။ အငှားချထားသည့်စက်ရုံမှ ထွက်ရှိသော အခိုးအငွေ့များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထု ၊ လေထု တို့ကိုညစ်ညမ်းအောင်မပြုရ။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၃။ ငှားရမ်းစက်ရုံ၏ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ဘေးအန္တရာယ်ကျရောက်မှု မရှိစေရန် ဆောင်ရွက်ရမည်။

စာချုပ်စည်းကမ်းဖောက်ဖျက်ခြင်း

၂၄။ စာချုပ်ပါစည်းကမ်းချက်များ ဖောက်ဖျက်ခြင်းသည် ထည်ဆဲဥပဒေတစ်ရပ်ရပ်ကို ချိုးဖောက်ခြင်း ဖြစ်ပါက တရားဥပဒေနှင့်အညီ အရေးယူခြင်းခံရမည်။

အငြင်းပွားမှုဖြေရှင်းခြင်း

၂၅။ ဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ စက်မှုဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက်ရယူ၍ ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

သယံဇာတပစ္စည်းဆိုင်ရာကိစ္စ

၂၆။ ဤသဘောတူစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့်မြေ၏ မြေပေါ် မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝ သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများအစရှိသည်တို့ တွေ့ရှိလျှင် ထိုပစ္စည်းများကို "အငှားချထားသူ"က ပိုင်ဆိုင်ရမည့်အပြင် "အငှားချထားသူ"သည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရအဖွဲ့ အစည်း သို့ လွှဲပြောင်းတင်ပြရမည်။ "အငှားချထားသူ"သည် အဆိုပါ သယံဇာတ ပစ္စည်းများကို မည်သည့် အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ပိုင်ခွင့်ရှိစေရမည်။

ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၂၇။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါ ဖြစ်စေ၊ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်)ရပ်စဲသည့်နေ့မှ (၃၀)ရက်အတွင်း အငှားချထားသည့် စက်ရုံ၊ မြေနှင့် အဆောက်အဦများကို "အငှားချထားသူ"သို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် "အငှားချထားသူ" လက်ဝယ်အရောက် ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။

မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

၂၈။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့်အလားတူ ဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့်ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၂၉။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ (တစ်ဆယ့်လေး)ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ချင်းစာဖြင့်ရေးသား အကြောင်းကြားရမည်။ "အငှားချထားသူ"က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်ပြီး စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး သက်သာခွင့်ပြုနိုင်သည်။

ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၃၀။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးမှသာ လုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

အာမခံထားရှိခြင်း

၃၁။ "အငှားချထားခြင်းခံရသူ"သည် တစ်နှစ်ငှားရမ်းခ၏ ၁၀%နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ(Performance Bank Guarantee)အဖြစ် မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို အထည်အလိပ်လုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း

၃၂။ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းသတ်မှတ်ချက်များသည် လုပ်ငန်းများ အမှန်တကယ်အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး ဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူ၍ စာချုပ်ပါ စည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

စာချုပ်ရုပ်စဲခြင်း

၁၃။ (က) စာချုပ်ရုပ်စဲခြင်းနှင့်ပတ်သက်၍ စာချုပ်ကို အောက်ပါ အကြောင်းအရပ်များတစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ကိုရုပ်စဲခွင့်ရှိသည်-

(၁) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့်ဖြစ်စေ အငှားချထားသည့်စက်ရုံရှိ ပစ္စည်းများ၊ စက်ရုံမြေနှင့် ၎င်းမြေပေါ်တွင် တိုးချဲ့ ဆောက်လုပ်ထားသော အဆောက်အဦများနှင့် စက်ရုံရှိပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(၂) စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ" မှ ဖောက်ဖျက်ကျူးလွန်ခြင်း

(၃) "အငှားချထားခြင်းခံရသူ"က လူမွဲအဖြစ်ခံယူသွားခြင်း။

(၄) မြေနှင့်အဆောက်အဦများ ငှားရမ်းသက်တမ်းကုန်ဆုံးခြင်း။

(၅) နှစ်ဖက်သဘောတူစာချုပ်ရုပ်စဲခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အား ရုပ်စဲလိုပါက ရုပ်စဲလိုကြောင်း ခိုင်လုံသော အကြောင်းပြချက်ဖော်ပြပြီး စာချုပ်ဝင် တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ (၃)လကြိုတင်နို့တစ်ပေးရမည်။

(ဂ) အထက်ပါကိစ္စရပ်များအနက် ကိစ္စရပ်တစ်ခုခုကြောင့် စာချုပ်ရုပ်စဲလိုပါက စက်မှုဝန်ကြီးဌာနသို့ တင်ပြခွင့်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(ဃ) စာချုပ်ရုပ်စဲခြင်းသည် စာချုပ်ပါလုပ်ငန်းအားလုံးအား အကြွေအလည် ပြီးပြတ်ရှင်းလင်းပြီးမှသာ ရုပ်စဲခြင်းပြီးမြောက်ရမည်။ ယင်းသို့ ရှင်းလင်းပြီးပါက စာချုပ်ပါငှားရမ်းထားသော ပစ္စည်းများအားလုံးကို အငှားချထားသူ၏ပိုင်ဆိုင်မှုသို့ လက်ဝယ်ပြန်လည် အပ်နှံရောက်ရှိစေရမည်။

၁၄။ သဘောတူစာချုပ်သက်တမ်းမကုန်ဆုံးသေးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရဖြစ်စေ၊ မူဝါဒပိုင်း ပြုလုပ်ရန်ဖြစ်စေ "အငှားချထားသူ"မှ (၃)လ ကြိုတင်အကြောင်းကြား၍ နှစ်ဖက်ညှိနှိုင်းသဘောတူပြီး စာချုပ်ကို ရုပ်စဲနိုင်သည်။ ယင်းသို့ဆောင်ရွက်ရာတွင် စက်မှုဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရမည်။

(ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၁၅။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် "အငှားချထားသူ"တယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့) လိုက်နာရန် "အငှားချထားခြင်းခံရသူ"သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ၁လ အတွင်းလိုက်နာမှုမရှိပါက "အငှားချထားသူ"သည် အငှားချထားသည့်စက်ရုံနှင့် မြေကို ပြန်လည်ဝင်ရောက် လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် "အငှားချထားသူ" က "အငှားချထားခြင်းခံရသူ"ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။ )

ငှားချထားခြင်းခံရသူ"မှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်

၆။ United Pacific Co.,Ltd. အနေဖြင့် ဈေးကွက်လိုအပ်ချက်အရ သင့်တော်သည့်အဆင့်မြင့်စက်၊ က်ကိရိယာများတပ်ဆင်ခြင်း၊ အရည်အသွေးမီထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ရန်အတွက် အကောင် ထည်ဖော်ခြင်းများကို စီမံချက်ရေးဆွဲဆောင်ရွက်သွားပါမည်။

၇။ ရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်တောင်းခံထားသဖြင့် ဥပဒေအကြောင်းအရ ပြင်ဆင်ဖြည့် က်မှုများရှိပါက ချုပ်ဆိုပြီးသော ဤစာချုပ်ပေါ်တွင် ပြင်ဆင်မှုအား လိုက်နာဆောင်ရွက်ရမည်။

၈။ ဤသဘောတူစာချုပ်တွင်ပါရှိသောမြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၉။ အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေ တို့အလင်ရှေ့မှောက်တွင် ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ(၃၀)ရက်နေ့၌ "အငှားချထားသူ"နှင့်"အငှားချ ထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုးကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| (အထည်အလိပ်လုပ်ငန်း) | (United Pacific Co.,Ltd.) |
| | 30/10/13 |
| ဦးစိုးလှိုင် | ဦးလှမြင့်ရွှေ |
| ဦးဆောင်ညွှန်ကြားရေးမှူး | (၁/မတန(နိုင်) ၀၁၇၁၉၂) |
| (အထည်အလိပ်လုပ်ငန်း) | Managing Director |
| | United Pacific Co.,Ltd |

**အသိသက်သေများ**

| | |
|---|---|
| ဦးသိန်းလွင် | ဒေါ်အေးမြတ်မွန် |
| ညွှန်ကြားရေးမှူး(ပစ္စည်းစီမံရေး) | (၇/ပခန(နိုင်) ၂၂၆၂၁၂) |
| (အထည်အလိပ်လုပ်ငန်း) | Deputy Managing Director |
| | United Pacific Co.,Ltd. |

ဒေါ်ခင်ခင်ချို
ညွှန်ကြားရေးမှူး(ဘဏ္ဍာရေး)
(အထည်အလိပ်လုပ်ငန်း)

ဒေါ်ဝင်းမေအောင်
(၁၂/အစန(နိုင်) ၁၁၆၇၃၃)
General Manager
United Pacific Co.,Ltd.

ဒေါ်မြတ်မြတ်ခိုင်
စက်ရုံခွဲတာဝန်ခံ
အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)

ကန့်သတ်

# စက်မှုဝန်ကြီးဌာန

# အထည်အလိပ်လုပ်ငန်း

နှင့်

# United Pacific Co.,Ltd.

တို့

ချုပ်ဆိုသော

# အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအားငှားရမ်းသည့် သဘောတူစာချုပ်ကို (ပထမအကြိမ်) ပြင်ဆင်ဖြည့်စွက်သည့်သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၃၀) ရက်

ကန့်သတ်

## အထည်အလိပ်လုပ်ငန်းနှင့် United Pacific Co., Ltd. တို့ ချုပ်ဆိုသော အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း) နှင့်မြေအား ငှားရမ်းသည့် သဘောတူစာချုပ်ကို ပထမအကြိမ်ပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်တွင် ထည့်သွင်းချုပ်ဆိုထားသော အချက်အလက်များ

### မာတိကာ




စက်မှုဝန်ကြီးဌာန

အထည်အလိပ်လုပ်ငန်း

29 JUL 2014

နှင့်

**United Pacific Co.,Ltd.**

တို့

ချုပ်ဆိုသော

အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအား

ငှားရမ်းသည့် သဘောတူစာချုပ်ကို (ပထမအကြိမ်)

ပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၃၀)ရက်နေ့၌ ဦးခင်မောင်တင့် ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အထည်အလိပ်လုပ်ငန်း၊ စက်မှုဝန်ကြီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်တွင်စေပြီး၊ ယင်းဖော်ပြချက်တွင် ၎င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်)က တစ်ဖက်

နှင့်

ဦးလှမြင့်ရွှေ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်(၁/မကန(နိုင်)၀၁၇၁၉၂) Managing Director ကိုယ်စားပြုသော United Pacific Co.,Ltd. ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၈၆)၊ ဖန်ချက်ဝန် ဦးရွှေအိုးလမ်း၊ ရွှေပြည်သာ၊ စက်မှုဇုန်(၃) (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက် တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးနှစ်ဖက်သဘောတူ စာချုပ်ချုပ်ဆိုကြပါသည်။




ရည်ရွယ်ချက်

၁။ "အငှားချထားသူ"ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အင်းစိန်လမ်း(၇)မိုင် (၇)ဖာလုံ၊ (၃)ရပ်ကွက်ရှိ အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)ကို "အငှားချထားခြင်းခံရသူ"မှ ငှားရမ်းပြီး အထည်အလိပ်လုပ်ငန်းနှင့်ဆက်စပ်သည့် လုပ်ငန်းများဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ဤစက်ရုံမြေနှင့်အဆောက်အဦ ငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်သည်။

29 JUL 2014

အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၂။ "အငှားချထားသူ" သည် နောက်ဆက်တွဲတွင် အသေးစိတ်ဖော်ပြထားသော စက်ရုံ၊ မြေနှင့် အဆောက်အဦများကို ပိုင်ဆိုင်သူ ဖြစ်ပါသည်။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများ ဖြစ်ကြောင်းကို အသီးသီး အာမခံကြပါသည်။

၃။ အငှားချထားမည့် နေရာ၊ မြေနှင့်အဆောက်အဦများ

(က) စက်ရုံအမည်နှင့် - အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)
တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး မရမ်းကုန်းမြို့နယ်၊ အင်းစိန်လမ်း၊ (၇)မိုင် (၇)ဖာလုံ၊ (၃)ရပ်ကွက်တွင် တည်ရှိပါသည်။

(ခ) မြေ(ဧက) - စက်ရုံနှင့်ဝန်ထမ်းအိမ်ယာအပါအဝင် စုစုပေါင်းဧရိယာ (၆. ၉၅) ဧက
မြေပုံကို နောက်ဆက်တွဲ(က)ဖြင့် ပူးတွဲဖော်ပြထားပါသည်။

(ဂ) အဆောက်အဦ - ပင်မစက်ရုံအပါအဝင် စက်မှုဆိုင်ရာအဆောက်အဦ(၁၁)လုံး၊ ဝန်ထမ်းအိမ်ယာအဆောက်အဦ(၄)လုံး၊ နောက်ဆက်တွဲ(ခ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။




ငှားရမ်းမည့်အချိန်ကာလ

၄။ ငှားရမ်းမည့်အချိန်ကာလမှာ ၂၀၁၃ခုနှစ်၊ နိုဝင်ဘာလ(၁)ရက်နေ့မှ ၂၀၄၃ခုနှစ်၊ အောက်တိုဘာလ(၃၁)ရက်နေ့အထိ (၃၀)နှစ်ဖြစ်သည်။

ဆိုင်းငံ့ကာလသတ်မှတ်ခြင်း

၅။ ပြင်ဆင်ချိန်ကာလ(၆)လအား ဆိုင်းငံ့ကာလအဖြစ် သတ်မှတ်ပြီး အဆိုပါ ကာလအတွင်း ကုန်ကြမ်းပစ္စည်းများ စုဆောင်းခြင်း၊ စက်များ ပြင်ဆင်ခြင်း ဆောင်ရွက်နိုင်ရန် ဖြစ်ပါသည်။ သို့ရာတွင် ဝန်ထမ်းလစာနှင့် အခြားကုန်ကျစရိတ်များအား "အငှားချထားခြင်းခံရသူ"မှ ငှားရမ်းသည့်နေ့မှစ၍ ပေးချေရမည်။

ငှားရမ်းခနှုန်းထား

၆။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါ စက်ရုံ၊ မြေနှင့် အဆောက်အဦများအပါအဝင် တစ်နှစ်လျှင် ကျပ် (၄၁၀. ၀၀၀)သန်း (ကျပ်လေးရာတစ်ဆယ်သန်းတိတိ) ဖြစ်သည်။

မြေပရီမီယံကြေးပေးသွင်းခြင်း

၇။ "အငှားချထားခြင်းခံရသူ"သည်ငှားရမ်းသည့် မြေပေါ်တွင် အဆောက်အဦ လုပ်ငန်းများ တိုးချဲ့ဆောင်ရွက်လိုပါက စက်မှုဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိပြီး ရက်ပေါင်း(၃၀)အတွင်း မြေယာအသုံးချမှု ပရီမီယံကြေးကျပ်(၅. ၀၀၀) သန်းအား ပေးဆောင်ရမည်။ သတ်မှတ်ရက်အတွင်း ပေးသွင်းရန် ပျက်ကွက်ပါက (၁)လနောက်ကျတိုင်း ပေးသွင်းသည့်တန်ဖိုး၏(၁%)ကို ဒဏ်ကြေးအဖြစ် "အငှားချထားသူ"ထံသို့ ပေးသွင်းရမည်။

ငှားရမ်းခပေးချေခြင်း

၈။ "အငှားချထားခြင်းခံရသူ"သည် (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကျပ် (၁၀၂. ၅၀၀)သန်း (ကျပ် တစ်ရာ့နှစ်သန်း ငါးသိန်းတိတိ)ကို (၃)လလျှင် တစ်ကြိမ် ပေးသွင်းရမည်။ (၃)လအတွက် ငှားရမ်းခကို ပထမလ၏ (၁၅)ရက်အတွင်း ကြိုတင်ပေးသွင်းရမည်။




နောက်ကျကြေးပေးသွင်းခြင်း

၉။ ငှားရမ်းခအား သတ်မှတ်ရက်အတွင်း ပေးသွင်းရန် ပျက်ကွက်ပါက ထိုသို့ ပျက်ကွက်သည့်နေ့မှစ၍ (၁)လ နောက်ကျတိုင်း (၃)လအတွက် ငှားရမ်းခ၏ ၁%ကို ဒဏ်ကြေးအဖြစ် ပေးသွင်းရမည်။

ငှားရမ်းခပြင်ဆင်သတ်မှတ်ခြင်း

၁၀။ "အငှားချထားသူ"နှင့်"အငှားချထားခြင်းခံရသူ" တို့သည် နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် ငှားရမ်းခနှုန်းထား ပြင်ဆင်သတ်မှတ်ခြင်းကို (၂)နှစ် တစ်ကြိမ် ဈေးနှုန်းညှိနှိုင်းပြီး ၂%မှ ၅%ထက်မပိုသော နှုန်းထားဖြင့် စက်မှုဝန်ကြီးဌာနသို့ အတည်ပြုချက်ရယူ၍ ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

စာချုပ်သက်တမ်း

၁၁။ သဘောတူစာချုပ်၏ သက်တမ်းသည် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ(၁)ရက်နေ့မှ ၂၀၃၃ ခုနှစ် အောက်တိုဘာလ(၃၁)ရက်နေ့အထိ ကနဦး(၂၀)နှစ်ဖြစ်ပြီး၊ နောက်ထပ်တစ်ကြိမ်လျှင် (၅)နှစ် သက်တမ်း (၂)ကြိမ် သက်တမ်းတိုးဆောင်ရွက်ခြင်းအား စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။ စာချုပ်သက်တမ်းတိုးရာတွင် ငှားရမ်းခနှုန်းထားကို ဖော်ပြလျက် စာချုပ်သက်တမ်းတိုးမြှင့်ပေးရန် "အငှားချထားသူ"ထံ စာချုပ်သက်တမ်းမကုန်ဆုံးမီ (၃)လကြိုတင်၍ စာဖြင့် တင်ပြရမည်။

စာချုပ်ပြင်ဆင်ခြင်း

၁၂။ (က) ဤသဘောတူစာချုပ်ပါ စည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံ ဖြည့်စွက်ပြုလုပ်လိုပါက "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၏ အတည်ပြုချက်ရယူ ဆောင်ရွက်ရမည်။

(ခ) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့သည် စက်ရုံ မြေနှင့် အဆောက်အဦများအား ငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှုမရှိခြင်းကြောင့်ဖြစ်စေ၊ အခြားသော




အဆင်မပြေမှုများ ရှိခြင်းကြောင့်ဖြစ်စေ နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်းဆွေးနွေးမည် ဆိုပါက (၃)လ ကြိုတင်အကြောင်းကြားရမည်။ အငှားချထားသူမှ နောက်ထပ်ငှားရမ်းလိုသူအား နေ့စဉ်ထုတ်သတင်းစာများတွင် တင်ဒါခေါ်ယူ၍ တင်ဒါအောင်မြင်သူကို လက်ရှိဆက်လက်ငှားရမ်းလိုခြင်းမရှိသော "အငှားချထားခြင်းခံရသူ"က စနစ်တကျလွှဲပြောင်းပေးရမည်ဖြစ်ပါသည်။ လွှဲပြောင်းပေးခြင်းအား စက်မှုဝန်ကြီးဌာနမှ အတည်ပြုချက်ရရှိမှသာ ငှားရမ်းချထားခြင်းကို စွန့်လွှတ်ခွင့်ပြုမည်ဖြစ်ပါသည်။

စာချုပ်အကျိုးသက်ရောက်မှု

၁၃။ ဤသဘောတူစာချုပ်သည် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

စက်ရုံလွှဲပြောင်း/လက်ခံခြင်း

၁၄။ အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း) မြေ၊ အဆောက်အဦနှင့် လက်ရှိတာဝန်ထမ်းဆောင်လျက်ရှိသော ဝန်ထမ်း(၃၆၅)ဦးအပြင် ဖွဲ့စည်းပုံအရရှိနေသော ဝန်ထမ်း(၅၃)ဦး စုစုပေါင်းဝန်ထမ်း(၄၁၈)ဦးအား ဤသဘောတူစာချုပ် သက်တမ်းစတင်သည့်ရက်နေ့မှစ၍ လွှဲပြောင်း/လက်ခံခြင်းအား နှစ်ဦးနှစ်ဖက် ဆောင်ရွက်ရမည်။

လွှဲပြောင်းပေးမည့်ဝန်ထမ်းများ

၁၅။ လွှဲပြောင်းပေးမည့် ခွင့်ပြုအင်အားမှာ (၄၁၈)ဦးရှိပြီး အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | လစာနှုန်း | | ဦးရေ |
|---|---|---|---|
| (က) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | လ/ထအထွေထွေမန်နေဂျာ | ၁ |
| (ခ) | ၁၆၀၀၀၀-၂၀၀၀- ၁၇၀၀၀၀ | မန်နေဂျာ | ၃ |




| စဉ် | လစာနှုန်း | | ဦးရေ |
|---|---|---|---|
| (ဂ) | ၁၄၀၀၀၀ိ-၂၀၀၀ိ- ၁၅၀၀၀၀ိ | လ/ထမန်နေဂျာ | ၆ |
| (ဃ) | ၁၀၅၀၀၀ိ-၁၀၀၀ိ-၁၁၀၀၀၀ိ | စုမှူး | ၁၆ |
| (င) | ၉၉၀၀၀ိ-၁၀၀၀ိ- ၁၀၄၀၀၀ိ | စိတ်မှူး | ၂၇ |
| (စ) | ၉၃၀၀၀ိ-၁၀၀၀ိ- ၉၈၀၀၀ိ | ထုတ်/ကျွမ်း(၃) | ၃၆ |
| (ဆ) | ၈၇၀၀၀ိ-၁၀၀၀ိ- ၉၂၀၀၀ိ | ထုတ်/ကျွမ်း(၄) | ၂၇၈ |
| (ဇ) | ၈၁၀၀၀ိ-၁၀၀၀ိ-၈၆၀၀၀ိ | ထုတ်/ကျွမ်း(၅) | ၂၈ |
| (ဈ) | ၇၅၀၀၀ိ-၁၀၀၀ိ-၈၀၀၀၀ိ | လုပ်သား | ၇ |
| (ည) | ၃၀၀၀ိ/- | နေ့စား | ၂၀ |
| | စုစုပေါင်း | | ၄၁၈ |

ဝန်ထမ်းရေးရာကိစ္စရပ်များ

၁၆။ ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ "အငှားချထားခြင်းခံရသူ"၏အစီအစဉ်ဖြင့် ဝန်ထမ်းရေးရာစီမံခန့်ခွဲရေးကော်မတီဖွဲ့စည်းပြီး "အငှားချထားခြင်းခံရသူ"က ဥက္ကဌအဖြစ် ပါဝင်ဆောင်ရွက်ရမည်။ ထိုကော်မတီတွင် "အငှားချထားသူ"ဘက်မှ စက်ရုံတာဝန်ခံမှ အဖွဲ့ဝင်အဖြစ် ပါဝင်ဆောင်ရွက်ရမည်။

(က) ပြင်ပဝန်ထမ်းစည်းကမ်းချက်နှင့်အညီ ကုမ္ပဏီတွင် တာဝန်ထမ်းဆောင်ခြင်း

(၁) စက်ရုံရှိ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို နိုင်ငံတော်က သတ်မှတ်ထားသည့်လ၏ နောက်ဆုံးရက် (သို့မဟုတ်) ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီရက်တွင် လစာထုတ်ပေးရမည်။




(၂) ဝန်ထမ်းများ၏ ခံစားရရှိသည့် ဝန်ထမ်းလစာနှင့်အပို ထောက်ပံ့ကြေးများကို ရရှိခံစားစေရမည်။

(၃) အလုပ်ချိန်နှင့်ပတ်သက်၍ နိုင်ငံတော်မှ ထုတ်ပြန်ထားသော ခွင့်ရက်နှင့် အလုပ်ပိတ်ရက်တည်ဆဲအက်ဥပဒေအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(၄) "အငှားချထားခြင်းခံရသူ" သည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား စာချုပ်ဝင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းသဘောတူညီချက်ဖြင့် ဆက်လက်တာဝန်ပေးအပ်ရမည်။

(၅) ဝန်ထမ်းများအား ရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်း၊ ခန့်ထားခြင်း၊ နုတ်ထွက်ခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များအား နိုင်ငံတော်မှထုတ်ပြန်ထားသည့် အမိန့်၊ စည်းမျဉ်း၊ နိုင်ငံ့ဝန်ထမ်းဥပဒေ၊ အလုပ်သမားဥပဒေအပါအဝင် တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

(၆) စက်ရုံလွှဲပြောင်းသောအခါ ပါရှိသော ဝန်ထမ်းများအနက် ရာထူးမှနုတ်ထွက်လိုခြင်း၊ နှစ်ပြည့်(သို့မဟုတ်)သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက "အငှားချထားသူ"ထံ တင်ပြရမည်။

(၇) ဝန်ထမ်းများ၏ လူမှုဖူလုံရေး၊ ဝန်ထမ်းများ၏ အကျိုးခံစားခွင့်ရရှိရေးအတွက် "အငှားချထားခြင်းခံရသူ"မှ အလုပ်သမားဥပဒေ၊ လူမှုဖူလုံရေး ဥပဒေများနှင့်အညီတာဝန်ယူရမည်။

(၈) ဝန်ထမ်းများအလုပ်ခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက ဥပဒေအရ လိုအပ်သည်များကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ခ) ကုမ္ပဏီဝန်ထမ်းအဖြစ် တာဝန်ထမ်းဆောင်ခြင်း

(၁) စက်ရုံဝင်းအတွင်းရှိ ဌာနများနှင့် စက်ရုံပြင်ပရှိ အငှားချထားခြင်းခံရသူ၏ ဆက်စပ်လုပ်ငန်းဌာန များသို့ ဝန်ထမ်းများအား ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်း ဆိုင်ရာကိစ္စများကို "အငှားချထားခြင်းခံရသူ"က ဝန်ထမ်းများနှင့် ညှိနှိုင်း၍ အငှားချထားသူ၏ ကြီးကြပ်မှုဖြင့် ဆောင်ရွက်ရမည်။




JUL 2014

(၂) ဝန်ထမ်းများအား အငှားချထားသည့် စက်ရုံဝင်းအတွင်းရှိ မြေလွတ်များတွင် ကြို တင် တင်ပြ၍ ခွင့်ပြုချက်ရရှိသော တည်ဆောက်အကောင်အထည်ဖော်ပြီးစီးမည့် စက်ရုံ မြေများနှင့်ပတ်သက်၍ လုပ်ငန်းတာဝန်များကို "အငှားချထားခြင်းခံရသူ"က လိုအပ်သလို တာဝန်ပေးအပ်ရမည်။

(၃) ကုမ္ပဏီဝန်ထမ်းအဖြစ် လွှဲပြောင်းတာဝန်ထမ်းဆောင်ပါက နိုင်ငံတော်မှ သတ်မှတ် ထားသော စက်ရုံ အလုပ်ရုံနှင့် အလုပ်သမားဥပဒေအရ ဆောင်ရွက်ရန်တာဝန်များကို အငှားချထားခြင်းခံရသူမှ အပြည့်အဝဆောင်ရွက်ပေးပြီး၊ ဝန်ထမ်းများအား အငှားချထားခြင်းခံရသူမှ သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့်အညီ စာချုပ်ချုပ်ဆိုဆောင်ရွက်ခွင့်ပြုရမည်။

အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

၁၇။ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) အခွန်ထမ်းဆောင်ခြင်း

ငှားရမ်းခြင်း(Lease)၊ မြေပရီမီယံကြေးပေးဆောင်ခြင်း(Premium)၊ လုပ်ငန်းဆောင်ရွက်မှု အာမခံထားရှိခြင်း(Performance Bank Guarantee)စသည့်များအား တည်ဆဲမြန်မာနိုင်ငံ တံဆိပ်ခေါင်းအက်ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ထမ်းဆောင်ရမည်။

(ခ) မြေ၊ အဆောက်အဦများ

(၁) မြေနှင့် အဆောက်အဦများကို နောက်ဆက်တွဲပါ စည်းကမ်းချက်များအတိုင်း ငှားရမ်း ဆောင်ရွက်ရမည်။

(၂) စက်ရုံအဆောက်အဦများအား လိုအပ်သည့် ပြင်ဆင်မွမ်းမံခြင်းများ ဆောင်ရွက်ရမည်။ ကျန်ရှိသော မြေနေရာတွင်လိုအပ်ချက်အရ အဆောက်အဦသစ်များ ဆောက်လုပ်လို ပါက "အငှားချထားသူ"၏ စာဖြင့် ခွင့်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ရှိသည်။

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
122573
၅၀၀၀၀၀ကျပ် K 500000

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
122574
၅၀၀၀၀၀ကျပ် K 500000

29 JUL 2014

(၃) "အငှားချထားသူ"၏ ကြိုတင်ခွင့်ပြုချက်မရှိဘဲ အဆောက်အဦပိုင်းဆိုင်ရာ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်းများမပြုလုပ်ရ။

(၄) အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများအားလုံးသည် ငှားရမ်းခြင်းစာချုပ်သက်တမ်းကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန် မလိုဘဲ "အငှားချထားသူ" ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ မိမိတပ်ဆင်ထားသော ပစ္စည်းအား အငှားချသည့်အဆောက်အဦလွှဲပြောင်းချိန်တွင် ပြန်လည် ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီကတည်းက နှစ်ဖက်ညှိနှိုင်း အတည်ပြုချက်ကို စာဖြင့်ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့် အခြားရွှေ့ပြောင်းနိုင်သည့်ပစ္စည်း များကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(၅) ဤသဘောတူစာချုပ်သက်တမ်းကုန်သည့်အခါ အငှားချစက်ရုံနှင့် မြေကို မူလငှားရမ်းစဉ်က အခြေအနေအတိုင်းပြုပြင်မွမ်းမံထိန်းသိမ်း၍ ပြန်လည်လွှဲပြောင်းပေးရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှုရှိသော ပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(၆) အငှားချထားသည့် မြေ၊ အဆောက်အဦများနှင့်ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်နှင့် အခြား အခွန်အခများ၊ ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဂ) စက်နှင့်စက်ပစ္စည်းများ

(၁) လုပ်ငန်းများတိုးချဲ့ခြင်းနှင့် စက်ပစ္စည်းများ ထပ်မံတိုးချဲ့တပ်ဆင်ခြင်းများကို "အငှားချထားသူ"၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(၂) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
122575
၅၀၀၀၀၀ကျပ် K 500000

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
122576
၅၀၀၀၀၀ကျပ် K 500000

စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီး မီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာထားရှိရမည်။ စက်ရုံ၏သန့်ရှင်းရေး၊ အထွေထွေလုံခြုံရေးတို့ကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။

(ယ) ကုန်ကြမ်း/ကုန်ချော

(၁) စက်ရုံကို လက်ခံသည့်နေ့တွင် စက်ရုံ၌ ရှိသောကုန်ကြမ်းများ၊ စက်အရန်ပစ္စည်းများ၊ စက်သုံးဆီများ အစရှိသည့် ကုန်ခမ်းနိုင်သည့် ပစ္စည်းများနှင့် ရုံးသုံးပရိဘောဂများ၊ ရုံးသုံးပစ္စည်းများ၊ ဧည့်ရိပ်သာသုံးပစ္စည်းများကို ဆက်လက်အသုံးပြုလိုပါက နှစ်ဖက်ညှိနှိုင်း၍ သတ်မှတ်ထားသည့် နှစ်ချုပ်စာရင်းပါတန်ဖိုးဖြင့် ဝယ်ယူပြီး အသုံးပြုနိုင်ခွင့်ရှိသည်။

(၂) ကုန်ချောပစ္စည်းများကို သတ်မှတ်စက်စွမ်းအားထက်မကျော်လွန်စေဘဲ ထုတ်လုပ်ခွင့်ရှိပြီး ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(၃) လုပ်ငန်းနှင့် စက်ရုံရှိ ကုန်ချောပစ္စည်း ကျပ်သန်း(၂၀၀. ၀၀၀)(ကျပ်သန်းနှစ်ရာတိတိ)ဖိုးကို ဝယ်ယူရန် နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး ဝယ်ယူရမည်။ ကျသင့်တန်ဖိုးအား ၂၀၁၄ခုနှစ် မတ်လ(၃၁)ရက်နေ့ နောက်ဆုံးထား၍ ပေးသွင်းရမည်။

(ရ) အထွေထွေကိစ္စရပ်များ

(၁) "အငှားချထားခြင်းခံရသူ"သည် အထည်အလိပ်လုပ်ငန်းနှင့် ဆက်စပ်သည့် လုပ်ငန်းများကိုသာ ဆောင်ရွက်ရမည်။ အထည်အလိပ်လုပ်ငန်းနှင့်သက်ဆိုင်သော စီးပွားရေးလုပ်ငန်းများကို တိုးချဲ့ဆောင်ရွက်လုပ်ကိုင်လိုပါက စက်မှုဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူဆောင်ရွက်ရမည်။




(၂) စက်ရုံနှင့်မြေအား စတင်ငှားရမ်းသည့်အချိန်မှစ၍ စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများအားလုံးအား စာရင်းစစ်အစစ်ဆေးခံနိုင်ရေးနှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် စက်ရုံမှငှားရမ်းမီအချိန်ထိ ရှိသည့်အတိုင်း စနစ်တကျ ထိန်းသိမ်းဆောင်ရွက်ခွင့်ပြုရမည်။

(၃) အငှားချထားသည့် မြေနှင့် အဆောက်အဦများကို တစ်ဆင့်ငှားရမ်း ခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်း စသည့်တို့ လုံးဝမပြုလုပ်ရ။ သို့ရာတွင် မိမိကုမ္ပဏီ တစ်ဦးတည်း ဖြင့် ဆောင်ရွက်ရန် ငွေကြေးမလုံလောက်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ပြည်တွင်း/ပြည်ပ ကုမ္ပဏီများနှင့်အတတ်ပညာ၊ အရင်းအနှီးများ ပူးပေါင်း၍အကျိုးတူ ဆောင်ရွက်ခွင့်ရှိသည်။ သို့သော် စက်ရုံနှင့်ပတ်သက်၍ အကြောင်းကိစ္စရှိပါက "အငှားချထားခြင်းခံရသူ"၌ တာဝန်ရှိစေရမည်။

(၄) အငှားချထားသည့် စက်ရုံနှင့်မြေ၏အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချသည့် ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက "အငှားချထားသူ"က နည်းလမ်းတကျလုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များ ကို ဝင်ရောက်ခွင့်ပြုရမည်။

(၅) အငှားချထားသည့် စက်ရုံနှင့် မြေတွင် ခွင့်ပြုထားသည့် လုပ်ငန်းမှအပ ဥပဒေနှင့် မညီညွတ်သောလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

(၆) "အငှားချထားခြင်းခံရသူ"မှ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာ များ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး "အငှားချထား သူ" ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(၇) လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေစည်းမျဉ်းများနှင့်အညီ သုံးစွဲပြီး မီးဘေး ကာကွယ်ရေး အစီအမံများ လုံလောက်စွာထားရှိရမည်။ စက်ရုံ၏ သန့်ရှင်းရေး၊ အထွေထွေလုံခြုံရေးတို့ကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။




(၈) အငှားချထားသည့် စက်ရုံနှင့်မြေတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက် အတွင်း အချိန်မီ ပေးဆောင်ရမည်ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာအထောက်အထား မိတ္တူများအား "အငှားချထားသူ"ထံ လစဉ်ပေးပို့ရမည်။

(၉) အငှားချထားသည့် စက်ရုံ၏ အုပ်ချုပ်မှုနှင့်ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓါတ်ဆီတို့အား "အငှားချထားခြင်းခံရသူ"၏ အစီအမံဖြင့် စီစဉ် ဆောင်ရွက်ရမည်။

(၁၀) "အငှားချထားခြင်းခံရသူ"၏ ပေါ့ဆမှုကြောင့် ဆုံးရှုံးမှုတစ်စုံတစ်ရာဖြစ်ပေါ်လာပါက "အငှားချထားခြင်းခံရသူ"မှ မူလငှားရမ်းစဉ် အနေအထားအတိုင်း ပြန်လည်ပြုပြင်ပေးခြင်း(သို့မဟုတ်) ကာလတန်ဖိုးနှင့်အညီ ပေးလျော်ခြင်းများ ပြုလုပ်ရမည်။

(၁၁) အငှားချထားသည့် စက်ရုံအတွက် အလုံးစုံ အာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး၊ အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေးကို "အငှားချထားခြင်းခံရသူ"က တာဝန်ယူဆောင်ရွက်ရမည်။

(၁၂) မီးအာမခံထားရှိမှုနှင့်ပတ်သက်၍ နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်ထားရှိပြီး "အငှားချထားခြင်းခံရသူ"မှ ပေးသွင်းရမည်။ ပေးသွင်းသည့်အထောက်အထားများကို "အငှားချထားသူ"ထံအပ်နှံထားရှိရမည်။

(၁၃) ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေးကို "အငှားချထားခြင်းခံရသူ"မှ အထည်အလိပ်လုပ်ငန်းသို့ လစဉ်ပေးသွင်းရမည်။

(၁၄) နိုင်ငံခြားသားကျွမ်းကျင်ပညာရှင်များအနေဖြင့် မြန်မာနိုင်ငံအတွင်းနေထိုင်စဉ်ကာလအတွင်း မြန်မာနိုင်ငံ၏ သတ်မှတ်ထားသော ဥပဒေများကို လေးစားလိုက်နာရန် တာဝန်ယူရမည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
122579
၅၀၀၀၀၀ကျပ် K 500000
29 JUL 2014

29 JUL 2014

အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၈။ "အငှားချထားသူ"၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "အငှားချထားခြင်းခံရသူ"အား အငှားချထားသည့် ပစ္စည်းများကို အသုံးပြု၍ ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ ရေ၊ သဘာဝဓါတ်ငွေ့နှင့် တယ်လီဖုန်းတို့ကို "အငှားချထားခြင်းခံရသူ" အား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဂ) အငှားချထားသည့်စက်ရုံအခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့် ပစ္စည်းများကိုလည်းကောင်း နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များ စေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုခကြေးနှင့် အခွန်အခများအား "အငှားချထားခြင်းခံရသူ" မှ လစဉ်အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(င) အငှားချထားသည့် စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့များရရှိရေးအတွက် နိုင်ငံတော်၏ မူဝါဒနှင့်အညီ သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(စ) စက်ရုံအတွက် ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရမည်။

(ဆ) အငှားချထားသည့် စက်ရုံနှင့်သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်းကျော်လွန်မှုမရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

(ဇ) ဝန်ထမ်းများ၏ လူမှုဖူလုံရေး အကျိုးခံစားခွင့်ရရှိရေးအတွက် "အငှားချထားသူ"မှ လိုအပ်သလို အကူအညီပေးရမည်။

(ဈ) အထည်အလိပ်လုပ်ငန်းအတွက်လိုအပ်မည့် နိုင်ငံခြားသား ကျွမ်းကျင်သူပညာရှင်များ၏ ပြည်ဝင်ခွင့် (Visa)နှင့် နေထိုင်ခွင့်(Stay)များအတွက် လိုအပ်သော ထောက်ခံချက်များ ဆောင်ရွက် ပေးနိုင်ရန် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။




ကုန်အမှတ်တံဆိပ်ဆိုင်ရာကိစ္စ

၁၉။ မိမိ၏ ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါ ကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကိုချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် "အငှားချထားခြင်းခံရသူ"၏ တာဝန်သာဖြစ်သည်။

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေးဆိုင်ရာကိစ္စ

၂၀။ (က) အငှားချထားသည့် စက်ရုံမှထွက်ရှိသောအခိုးအငွေ့များနှင့်စွန့်ပစ် ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထု ၊ လေထု တို့ကို မညစ်ညမ်းစေရေးအတွက် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေပြဌာန်းချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ခ) ငှားရမ်းသည့်စက်ရုံနှင့်မြေ၏ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ဘေးအန္တရာယ် ကျရောက်မှု မရှိစေရန် ဆောင်ရွက်ရမည်။

စာချုပ်စည်းကမ်းဖောက်ဖျက်ခြင်း

၂၁။ စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ခြင်းသည် တည်ဆဲဥပဒေတစ်ရပ်ရပ်ကို ချိုးဖောက်သကဲ့သို့ဖြစ်ပါက တရားဥပဒေနှင့်အညီ အရေးယူခြင်းခံရမည်။

အငြင်းပွားမှုဖြေရှင်းခြင်း

၂၂။ ဤသဘောတူစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

သယံဇာတပစ္စည်းဆိုင်ရာကိစ္စ

၂၃။ ဤသဘောတူစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့်မြေ၏ မြေပေါ် မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝ သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများအစရှိသည်တို့ တွေ့ရှိလျှင် "အငှားချထားသူ"ထံသို့ ချက်ချင်းအကြောင်းကြားရမည်။ ထိုပစ္စည်းများကို "အငှားချထားသူ"က ပိုင်ဆိုင်ရမည့်အပြင် "အငှားချထားသူ"သည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရအဖွဲ့အစည်း သို့ လွှဲပြောင်းတင်ပြရမည်။ "အငှားချထားသူ"သည် အဆိုပါ သယံဇာတပစ္စည်းများကို မည်သည့် အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ပိုင်ခွင့်ရှိစေရမည်။

ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၂၄။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါ ဖြစ်စေ၊ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်)ရပ်စဲသည့်နေ့မှ (၃၀)ရက်အတွင်း အငှားချထားသည့် စက်ရုံ မြေနှင့် အဆောက်အဦများကို "အငှားချထားသူ"သို့ အဖိုးစား နားမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် "အငှားချထားသူ" လက်ဝယ်အရောက် ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။

မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

၂၅။ (က) မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေလျှင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ် တားမြစ်ချက်များ တရားဥပဒေ စိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
122582
၅၀၀၀၀၀ကျပ် K 500000
29 JUL 2014

29 JUL 2014

ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချ ထားခြင်းခံရသူ" သည် "အငှားချထားသူ"သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

(ခ) ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ (တစ်ဆယ့်လေး)ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "အငှားချထားသူ"က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ပြောက်ပြီး စက်ရုံ၊ မြေနှင့်အဆောက်အဦများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး သက်သာကင်းလွတ်ခွင့်ပြုနိုင်သည်။

ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

[illegible]
ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွက် သက်ဆိုင်ရာ [illegible] အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးမှသာ လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

အာမခံထားရှိခြင်း

၂၇။ "အငှားချထားခြင်းခံရသူ"သည် တစ်နှစ်ငှားရမ်းခ၏ ၁၀%နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ(Performance Bank Guarantee)အဖြစ် မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို အထည်အလိပ်လုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း

၂၈။ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းသတ်မှတ်ချက်များသည် လုပ်ငန်းများ အမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
122582
၅၀၀၀၀၀ကျပ် K 500000
29 JUL 2014

ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချ ထားခြင်းခံရသူ" သည် "အငှားချထားသူ"သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

(ခ) ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ (တစ်ဆယ့်လေး)ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "အငှားချထားသူ"က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ပြောက်ပြီး စက်ရုံ၊ မြေနှင့်အဆောက်အဦများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး သက်သာကင်းလွတ်ခွင့်ပြုနိုင်သည်။

ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၂၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးမှသာ လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

အာမခံထားရှိခြင်း

၂၇။ "အငှားချထားခြင်းခံရသူ"သည် တစ်နှစ်ငှားရမ်းခ၏ ၁၀%နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ(Performance Bank Guarantee)အဖြစ် မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို အထည်အလိပ်လုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း

၂၈။ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းသတ်မှတ်ချက်များသည် လုပ်ငန်းများ အမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်




ညှိနှိုင်းပြီး စက်မှုဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူ၍ စာချုပ်ပါ စည်းကမ်းချက်များကို ပြန်လည် စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

စာချုပ်ရပ်စဲခြင်း

၂၉။ (က) အောက်ဖော်ပြပါ အကြောင်းအရပ်တစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ကိုရပ်စဲနိုင်သည်-

(၁) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့်ဖြစ်စေ အငှားချထားသည့်စက်ရုံရှိ ပစ္စည်းများ၊ စက်ရုံမြေနှင့် ၎င်းမြေပေါ်တွင် တိုးချဲ့ ဆောက်လုပ်ထားသော အဆောက်အဦများနှင့် စက်ရုံရှိပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(၂) စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှ ဖောက်ဖျက်ကျူးလွန်ခြင်း

(၃) "အငှားချထားခြင်းခံရသူ"က လူမွဲအဖြစ်ခံယူသွားခြင်း။

(၄) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

(၅) နှစ်ဖက်သဘောတူစာချုပ်ရပ်စဲခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အား ရပ်စဲလိုပါက ရပ်စဲလိုကြောင်း ခိုင်လုံသော အကြောင်းပြချက်ဖော်ပြပြီး စာချုပ်ဝင် တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ (၃)လကြိုတင် အကြောင်းကြားရမည်။

(ဂ) အထက်ပါကိစ္စရပ်များအနက် ကိစ္စရပ်တစ်ခုခုကြောင့် စာချုပ်ရပ်စဲလိုပါက စက်မှုဝန်ကြီးဌာနသို့ တင်ပြခွင့်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(ဃ) စာချုပ်ရပ်စဲခြင်းသည် စာချုပ်ပါလုပ်ငန်းအားလုံးအား အကြေအလည် ပြီးပြတ်ရှင်းလင်းပြီးမှသာ ရပ်စဲခြင်းပြီးမြောက်ရမည်။ ယင်းသို့ ရှင်းလင်းပြီးနောက် ရက်(၃၀)အတွင်း စာချုပ်ပါငှားရမ်းထားသော ပစ္စည်းများအားလုံးကို အငှားချထားသူ၏ပိုင်ဆိုင်မှုသို့ လက်ဝယ်ပြန်လည် အပ်နှံရမည်။

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
051267 SPECIAL ADHESIVE
၃၀၀၀၀၀ကျပ် K 300000
29 JUL 2014

(င) စာချုပ် သက်တမ်းမကုန်ဆုံးသေးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရဖြစ် စေ၊ ပုဂ္ဂလိက ပိုင်ပြုလုပ်ရန်ဖြစ်စေ "အငှားချထားသူ"မှ (၃)လကြိုတင်အကြောင်းကြား၍ နှစ်ဖက်ညှိနှိုင်း သဘောတူပြီး စာချုပ်ကို ရုပ်စဲနိုင်သည်။ ယင်းသို့ ဆောင်ရွက်ရာတွင် စက်မှုဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရမည်။

(စ) သဘောတူစာချုပ်သက်တမ်းမကုန်ဆုံးသေးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရ ပုဂ္ဂလိကပိုင်ပြုလုပ်ရန်ဖြစ်ပါက ယခု "အငှားချထားခြင်းခံရသူ"သို့ လုပ်ထုံးလုပ်နည်းနှင့်အညီ ရောင်းချခြင်းပြုရန်ဖြစ်သည်။

ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၃၀။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် "အငှားချထားသူ"ကယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့) လိုက်နာရန် "အငှားချထားခြင်းခံရသူ"သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလ အတွင်းလိုက်နာမှုမရှိပါက "အငှားချထားသူ"သည် အငှားချထားသည့်စက်ရုံနှင့် မြေကို ပြန်လည်ဝင်ရောက် လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်း သည် "အငှားချထားသူ" က "အငှားချထားခြင်းခံရသူ"ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့) ပျက်စီးဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

"အငှားချထားခြင်းခံရသူ"မှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်

၃၁။ (က) "အငှားချထားခြင်းခံရသူ"အနေဖြင့် ဈေးကွက်လိုအပ်ချက်အရ သင့်တော်သည့် အဆင့် မြင့်စက်၊ စက်ကိရိယာများတပ်ဆင်ခြင်း၊ အရည်အသွေးမီထုတ်ကုန်ပစ္စည်းများ ထုတ်လုပ် ရန်အတွက် အကောင်အထည်ဖော်ခြင်းများကို စီမံချက်ရေးဆွဲဆောင်ရွက်သွား ပါမည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးတပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀ကျပ် K 5000

(ခ) ဤသဘောတူစာချုပ်တွင်ပါရှိသောမြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေအစုံအလင်ရှေ့မှောက်တွင် ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၃၀)ရက်နေ့၌ "အငှားချထားသူ"နှင့်"အငှားချထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုးကြပါသည်-

| | |
|---|---|
| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
| ဦးခင်မောင်တင့် | ဦးလှမြင့်ရွှေ |
| ဦးဆောင်ညွှန်ကြားရေးမှူး | (၁/မကန(နိုင်) ၀၁၇၁၉၂) |
| (အထည်အလိပ်လုပ်ငန်း) | Managing Director |
| | United Pacific Co.,Ltd |

<u>အသိသက်သေများ</u>

| | |
|---|---|
| ဦးသိန်းလွင် | ဒေါ်အေးမြတ်မွန် |
| ညွှန်ကြားရေးမှူး(စီမံရေး) | (၇/ပခန(နိုင်) ၂၂၆၂၀၂) |
| (အထည်အလိပ်လုပ်ငန်း) | Deputy Managing Director |
| | United Pacific Co.,Ltd. |




ဒေါ်ခင်ခင်ချို
ညွှန်ကြားရေးမှူး(ဘဏ္ဍာရေး)
(အထည်အလိပ်လုပ်ငန်း)

ဒေါ်မြတ်မိုးသိမ်း
(၁၂/အလန(နိုင်) ၀၃၁၃၂၈)
Finance Manager
United Pacific Co.,Ltd.

ဦးတင်မောင်ဦး
ညွှန်ကြားရေးမှူး(အုပ်ချုပ်ရေး)
(အထည်အလိပ်လုပ်ငန်း)

ဦးဝင်းအောင်
ညွှန်ကြားရေးမှူး(ထုတ်လုပ်ရေး)
(အထည်အလိပ်လုပ်ငန်း)

ဦးအောင်မျိုးမင်း
ညွှန်ကြားရေးမှူး(ရောင်းချဖြန့်ဖြူးရေး)
(အထည်အလိပ်လုပ်ငန်း)

စက်မှုဝန်ကြီးဌာန
အထည်အလိပ်လုပ်ငန်း

# အမိန့်အာဏာ

၁။ နိုင်ငံတော်သမ္မတရုံး၏ ၂၃.၁၁.၂၀၁၂ ရက်စွဲပါ စာအမှတ် ၅၄(၂)/၇/သမ္မတရုံးအရ နိုင်ငံတော်သမ္မတ၏ ခွင့်ပြုချက်အရ ဆက်လက်ဆောင်ရွက်ရန် အကြောင်းကြားစာအရလည်းကောင်း၊

၂။ စက်မှုဝန်ကြီးဌာန၏ ၁၉.၁၂.၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေး အမှတ်စဉ်(၁၉/၂၀၁၃-၂၀၁၄)၏ သဘောတူဆုံးဖြတ်ချက်အရလည်းကောင်း၊

၃။ ၂၄.၄.၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၈/၂၀၁၄)၏ သဘောတူဆုံးဖြတ်ချက်အရ လည်းကောင်း၊

ဤစာချုပ်ကို အထက်ဖော်ပြပါ ဆုံးဖြတ်ချက်များအရ အမှတ်(၁)အထည်စက်ရုံခွဲ (မရမ်းကုန်း) ငှားရမ်းခြင်းအား ၃၀.၇.၂၀၁၄ ရက်နေ့တွင် လက်မှတ်ရေးထိုးခြင်း ဖြစ်ပါသည်။

၃၀/၀၇/၁၄

ခင်မောင်တင့်
ဦးဆောင်ညွှန်ကြားရေးမှူး

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇူလိုင်လ(၃၀)ရက်

ကန့်သတ်

စက်မှုဝန်ကြီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

နှင့်

United Pacific Co.,Ltd

တို့

ချုပ်ဆိုသော

# အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ငှားရမ်းထားသော သဘောတူစာချုပ်ကို ပြင်ဆင်ဖြည့်စွက်သည့် (ဒုတိယအကြိမ်)ပြင်ဆင်ချက် သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၉ ရက်

ကန့်သတ်

<u>ကန့်သတ်</u>

# စက်မှုဝန်ကြီးဌာန

# အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

နှင့်

# United Pacific Co.,ltd.

တို့

ချုပ်ဆိုသော

# အမှတ် (၁) အထည်စက်ရုံခွဲ (မရမ်းကုန်း)နှင့်မြေအား ငှားရမ်းထားသော သဘောတူစာချုပ်ကို ပြင်ဆင်ဖြည့်စွက်သည့် (ဒုတိယအကြိမ်) ပြင်ဆင်ချက် သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်

<u>ကန့်သတ်</u>

**အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့် United Pacific Co.,Ltd တို့ သဘောတူစာချုပ် ချုပ်ဆိုထားသော အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ငှားရမ်းထားသော သဘောတူစာချုပ်ကို ပြင်ဆင်ဖြည့်စွက်သည့် (ဒုတိယအကြိမ်)ပြင်ဆင်ချက်သဘောတူစာချုပ်**

ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို နေပြည်တော်တွင် ၂၀၁၅ ခုနှစ် ဇူလိုင်လ(၂၉)ရက်နေ့၌ ဦးခင်မောင်တင့်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန(နောင်တွင် "အငှားချထားသူ"ဟု ခေါ်တွင်စေပြီး ယင်းဖော်ပြချက်တွင် အဆိုပါ လုပ်ငန်းအား ဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခံရသူများပါဝင်သည်)ကတစ်ဖက်

နှင့်

ဦးလှမြင့်ရွှေ၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် (၁/မကန(နိုင်)၀၁၇၁၉၂)၊ Managing Director ကိုယ်စားပြုသော United Pacific Co.,Ltd၊ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ ဖန်ချက်ဝန်ဦးရွှေအိုးလမ်း၊ အမှတ်(၈၆) (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်းအား ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်နှင့် ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူစာချုပ်ချုပ်ဆိုကြပါသည်-

(က) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့အကြား အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ၃၀နှစ်(၂၀+၅+၅)ဖြင့် ငှားရမ်းသဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် ဇူလိုင်လ(၃၀)ရက်နေ့တွင် ချုပ်ဆိုသော နှစ်ဦးသဘောတူစာချုပ် (နောင်တွင် "မူလစာချုပ်"ဟု ခေါ်တွင်ရမည် ဖြစ်သည်)ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

"အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့အကြား အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ငှားရမ်းသည့် သဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ် မေလ (၂၁)ရက်နေ့တွင် ချုပ်ဆိုသော နှစ်ဦးသဘောတူစာချုပ် (နောင်တွင် ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်ဟု ခေါ်တွင်ရမည် ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်က တစ်ကြောင်း၊

အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)ရှိ မြေဧရိယာ(၇.၈၀)ဧကအနက် United Pacific Co.,Ltd သို့ စက်ရုံ၊ မြေ(၆.၉၅)ဧကနှင့် အဆောက်အဦ(၁၅)လုံးအား ငှားရမ်းထားပြီး ဝင်းသူဇာအရောင်းဆိုင်အဆောက်အဦ(အနောက်မရမ်းကုန်း)အား ကုမ္ပဏီသို့

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀၀ကျပ် K 50000

ထပ်မံ၍ ငှားရမ်းခွင့်ကို ၃.၁၀.၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေး အမှတ်စဉ်(၁၉/၂၀၁၄-၂၀၁၅)၏ ဆုံးဖြတ်ချက်အရ တစ်ကြောင်း၊

အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)ရှိ ဝင်းသူဇာအရောင်းဆိုင် အဆောက်အဦ (အနောက်မရမ်းကုန်း)အား United Pacific Co.,Ltd သို့ တစ်နှစ်လျှင် ငှားရမ်းခ ငွေကျပ်(၅၀.၄၀၀) သန်းဖြင့် စက်ရုံနှင့် တစ်ပေါင်းတည်း စာချုပ်ချုပ်ဆိုငှားရမ်းခွင့်ကို ၁၇.၁၂.၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၂၅/၂၀၁၄-၂၀၁၅)၏ ဆုံးဖြတ်ချက်အရ တစ်ကြောင်း၊

မူလငှားရမ်းစဉ် အဆောက်အဦ (၁၅)လုံးအနက် အဆောက်အဦ(၇)လုံးအား ၂၀.၆.၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီအစည်းအဝေး အမှတ်စဉ် (၇/၂၀၁၄-၂၀၁၅)၏ ဆုံးဖြတ်ချက်အရ လေလံတင်ဖျက်သိမ်းရောင်းချပြီး ဖြစ်ပါသဖြင့် လေလံအောင်မြင်သူသို့ ၈.၇.၂၀၁၄ရက်နေ့တွင် လွှဲပြောင်းပြီး ဖြစ်သည်ကတစ်ကြောင်း၊

မူလစာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက် ပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၏ အတည်ပြုချက် ရယူဆောင်ရွက်ရမည်ဟု ဖော်ပြထားသည်က တစ်ကြောင်း အောက်ပါစည်းကမ်းချက်များ နှင့်အညီ ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်း ဖြစ်ပါသည်-

၁။ မူလစာချုပ်၏ "အငှားချထားမည့်နေရာ၊ မြေနှင့်အဆောက်အဦ"ခေါင်းစဉ်အောက်ရှိ အပိုဒ်(၃)၊အပိုဒ်ခွဲ(က)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ရမည်-

(က) အဆောက်အဦ - ပင်မစက်ရုံအပါအဝင် စက်မှုဆိုင်ရာ အဆောက်အဦ (၈)လုံးနှင့် ဝင်းသူဇာအရောင်းဆိုင် အဆောက်အဦ (အနောက်မရမ်းကုန်း)(၁)လုံး အပါအဝင် စုစုပေါင်း

အဆောက်အဦ(၉)လုံးအား နောက်ဆက်တွဲ(ခ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။

၂။ မူလစာချုပ်၏ "ငှားရမ်းမည့်အချိန်ကာလ"ခေါင်းစဉ်အောက်ရှိ အပိုဒ်(၄)တွင် အောက်ပါစာပိုဒ်အား ထပ်မံဖြည့်စွက်ရမည်-

၄။ ဝင်းသူဇာအရောင်းဆိုင်အဆောက်အဦ (အနောက်မရမ်းကုန်း)အား စက်ရုံကို ငှားရမ်းဆောင်ရွက်လျက်ရှိသည့် ကုမ္ပဏီသို့ စက်ရုံငှားရမ်းထားသော ကာလအတိုင်း (၃၀)နှစ် (၂၀+၅+၅) ဖြင့် တစ်ပေါင်းတည်း ငှားရမ်းဆောင်ရွက်ရမည် ဖြစ်သည်။

၃။ မူလစာချုပ်၏ "ငှားရမ်းခနှုန်းထား"ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၆။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါ စက်ရုံ၊ မြေနှင့် အဆောက်အဦ (၉)လုံး (ဝင်းသူဇာအရောင်းဆိုင် အဆောက်အဦ(၁)လုံး အပါအဝင်)အတွက် ၂၀၁၅ ခုနှစ် ဩဂုတ်လ(၁)ရက်နေ့မှစ၍ တစ်နှစ်လျှင် ကျပ်(၄၆၀.၄၀၀) သန်း (ကျပ်လေးရာ့ခြောက်ဆယ်သန်းလေးသိန်းတိတိ) ဖြစ်သည်။

၄။ မူလစာချုပ်၏ "ငှားရမ်းခပေးချေခြင်း"ခေါင်းစဉ်အောက်ရှိ အပိုဒ်(၈)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၈။ "အငှားချထားခြင်းခံရသူ"သည် စက်ရုံ၊ မြေနှင့် အဆောက်အဦများ (ဝင်းသူဇာအရောင်းဆိုင် အဆောက်အဦ အပါအဝင်) (၃)လအတွက် ငှားရမ်းခကျသင့်ငွေ ကျပ်(၁၁၅.၁၀၀)သန်း (ကျပ်တစ်ရာတစ်ဆယ့်ငါးသန်းတစ်သိန်းတိတိ)ကို (၃)လလျှင်တစ်ကြိမ် ပေးသွင်းရမည်။ (၃)လအတွက် ငှားရမ်းခကို ပထမလ၏ (၁၅)ရက်အတွင်း ကြိုတင်ပေးသွင်းရမည်။

၅။ မူလစာချုပ်၏ "စာချုပ်ပြင်ဆင်ခြင်း"ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂)၊ အပိုဒ်ခွဲ(ခ)အား အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၁၂။ (ခ) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့သည် စက်ရုံ၊ မြေနှင့် အဆောက်အဦများအား ငှားရမ်းရာတွင် စီးပွားရေးအရ တွက်ခြေကိုက်မှုမရှိခြင်းကြောင့်ဖြစ်စေ၊ အခြားသော အဆင်မပြေမှုများ ရှိခြင်းကြောင့်ဖြစ်စေ၊ နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးမည် ဆိုပါက (၃)လ ကြိုတင် အကြောင်းကြားရမည်။ "အငှားချထားသူ"က နောက်ထပ်ငှားရမ်းလိုသူအား နေ့စဉ်ထုတ်သတင်းစာများတွင် တင်ဒါခေါ်ယူရမည်။ "အငှားချထားသူ"က တင်ဒါအောင်မြင်သူကို အကြားအလပ်မရှိ တစ်ဆက်တည်း ငှားရမ်းနိုင်ရေး ဆောင်ရွက်နိုင်ရန်အတွက် "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းထားသည့် မြေနှင့်အဆောက်အဦများအား ဆက်လက် ငှားရမ်းဆောင်ရွက်ရမည်ဖြစ်ပြီး စက်မှုဝန်ကြီးဌာနမှ အတည်ပြုချက် ရရှိမှသာ ငှားရမ်းချထားခြင်းကို စွန့်လွှတ်ခွင့်ပြုမည် ဖြစ်သည်။

၆။ မူလစာချုပ်ပါ "အငှားချထားခြင်းခံရသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ" ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၇)၊ အပိုဒ်ခွဲ(က)တွင် အောက်ပါစာပိုဒ်အား ထပ်မံဖြည့်စွက်ရမည်-

၁၇။ (က) ၂၀၁၅ ခုနှစ် ပြည်ထောင်စု၏ အခွန်အကောက်ဥပဒေပုဒ်မ ၁၁၊ ပုဒ်မခွဲ(ဆ)ပါ ပြဋ္ဌာန်းချက်အရ မြေနှင့်အဆောက်အဦငှားရမ်းခြင်းအတွက် ကုန်သွယ်လုပ်ငန်းခွန် မကျသင့်မီ ဝန်ဆောင်မှု ရငွေနှင့်အတူ ကျသင့်ကုန်သွယ်လုပ်ငန်းခွန် (၅)ရာခိုင်နှုန်းကို "အငှားချထားခြင်းခံရသူ"မှ ကျသင့်ငှားရမ်းခနှင့်အတူ ကျသင့်ကုန်သွယ်လုပ်ငန်းခွန်ကိုပါ တပါတည်း ပေးဆောင်ရမည် ဖြစ်သည်။

၇။ ဤပြင်ဆင်ချက်သဘောတူစာချုပ်နှင့် ပူးတွဲပါ နောက်ဆက်တွဲတို့သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၈။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ ပြင်ဆင်ပြောင်းလဲသည့် စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှု မရှိစေရ။

၉။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် နှစ်ဖက်စာချုပ်ဝင်တို့ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

ာက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေ ာက်တွင် ၂၀၁၅ ခုနှစ် ဇူလိုင်လ (၂၉)ရက်နေ့တွင် လက်မှတ်ရေးထိုးကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
| --- | --- |
| ၂၉/၀၇/၁၅ | ၂၉/၇/၂၀၁၅ |
| ဦးခင်မောင်တင့် | ဦးလှမြင့်ရွှေ |
| ဦးဆောင်ညွှန်ကြားရေးမှူး | (၁/မကန(နိုင်)၀၁၇၁၉၂) |
| (အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း) | Managing Director |
| | United Pacific Co.,Ltd |

**အသိသက်သေများ**

| | |
| --- | --- |
| ဦးသိန်းလွင် | ဒေါ်အေးမြတ်မွန် |
| အထွေထွေမန်နေဂျာ(စီမံရေး) | (၇/ပခန(နိုင်)၂၂၆၂၀၂) |
| (အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း) | Deputy Managing Director |
| | United Pacific Co.,Ltd. |

<u>ကန့်သတ်</u>

E:\Privatization\Revised Contract(Second)(01MYGN)

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀၀ကျပ် K 50000

29 JUL 201

# အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ငှားရမ်းထားသော သဘောတူစာချုပ်ကို ပြင်ဆင်ဖြည့်စွက်သည့် (ဒုတိယအကြိမ်) ပြင်ဆင်ချက်သဘောတူစာချုပ်

## အသိသက်သေများ

ဦးဝင်းအောင်
အထွေထွေမန်နေဂျာ(ထုတ်လုပ်ရေး)
(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း)

ဒေါ်မြတ်မိုးသိမ်း
(၁၂/အလန(နိုင်)၀၃၁၃၂၈)
Finance Manager
United Pacific Co.,Ltd

ဒေါ်ခင်ခင်ချို
အထွေထွေမန်နေဂျာ(ဘဏ္ဍာရေး)
(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း)

ဦးအောင်မျိုးမင်း
အထွေထွေမန်နေဂျာ(ရောင်းချဖြန့်ဖြူးရေး)
(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ဦးစိုးဝင်း
အထွေထွေမန်နေဂျာ(အုပ်ချုပ်ရေး)
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၂၀၀၀ကျပ် K 2000

ကန့်သတ်

E:\Privatization\Revised Contract(Second)(01MYGN)

ကန့်သတ်

စက်မှုဝန်ကြီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

နှင့်

United Pacific Co.,Ltd.

တို့

ချုပ်ဆိုသော

အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအား

ငှားရမ်းထားသော သဘောတူစာချုပ်ကို ပြင်ဆင်ဖြည့်စွက်သည့်

( ) ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)

ရက်စွဲ၊ ၂၀၀၅ ခုနှစ်၊ လ ရက်

ကန့်သတ်

**အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့် United Pacific Co.,Ltd. တို့ သဘောတူစာချုပ် ချုပ်ဆိုထားသော အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအား ငှားရမ်းထားသော သဘောတူစာချုပ်ကို ပြင်ဆင်ဖြည့်စွက်သည့် (  )ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)**

ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို နေပြည်တော်တွင် ၂၀၁၅ခုနှစ်၊ လ(  ) ရက်နေ့၌ ဦးခင်မောင်တင့်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်) က တစ်ဖက်

နှင့်

ဦးလှမြင့်ရွှေ၊နိုင်ငံသားမှတ်ပုံတင်အမှတ်(၁/မကန(နိုင်)၀၁၇၁၉၂)၊ Managing Director ကိုယ်စားပြုသော United Pacific Co.,Ltd.၊ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ ဖန်ချက်ဝန် ဦးရွှေအိုးလမ်း၊ အမှတ်(၈၆) (နောင်တွင် " အငှားချထားခြင်းခံရသူ " ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ၊တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်ချုပ်ဆိုကြပါသည်-

(က) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့အကြား အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ငှားရမ်းသဘောတူစာချုပ်ကို ၂၀၁၄ခုနှစ်၊ ဇူလိုင်လ(၃၀)ရက်နေ့တွင် ချုပ်ဆိုသော နှစ်ဦးသဘောတူစာချုပ် (နောင်တွင် "မူလစာချုပ်"ဟု ခေါ်တွင်ရမည်ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ခ) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့အကြား အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအား ငှားရမ်းသည့် သဘောတူစာချုပ်ကို ၂၀၁၅ခုနှစ် မေလ(၂၁)ရက်နေ့တွင် ချုပ်ဆိုသော နှစ်ဦးသဘောတူစာချုပ်(နောင်တွင် ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်ဟု ခေါ်တွင်ရမည်ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ဂ) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့အကြား အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ငှားရမ်းသည့်သဘောတူစာချုပ်ကို ၂၀၁၅ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ချုပ်ဆိုသော နှစ်ဦးသဘောတူစာချုပ်(နောင်တွင် ဒုတိယအကြိမ်၊ ပြင်ဆင်ဖြည့်စွက်သည့်ပြင်ဆင်ချက်သဘောတူစာချုပ်ဟုခေါ်တွင်ရမည် ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

ကန့်သတ်

**အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့် United Pacific Co.,Ltd. တို့ သဘောတူစာချုပ်ချုပ်ဆိုထားသော အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအား ငှားရမ်းထားသော သဘောတူစာချုပ်ကို ပြင်ဆင်ဖြည့်စွက်သည့် (                    )ပြင်ဆင်ချက် သဘောတူစာချုပ်(မူကြမ်း)**

ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို နေပြည်တော်တွင် ၂၀၁၅ခုနှစ်၊ လ(    ) ရက်နေ့၌ ဦးခင်မောင်တင့်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်) က တစ်ဖက်

နှင့်

ဦးလှမြင့်ရွှေနိုင်ငံသားမှတ်ပုံတင်အမှတ်(၁/မကန(နိုင်)၀၁၇၁၉၂)၊ Managing Director ကိုယ်စားပြုသော United Pacific Co.,Ltd.၊ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ ဖန်ချက်ဝန် ဦးရွှေအိုးလမ်း၊ အမှတ်(၈၆) (နောင်တွင် " အငှားချထားခြင်းခံရသူ " ဟု ခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ၊တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်ချုပ်ဆိုကြပါသည်-

(က) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့အကြား အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ငှားရမ်းသဘောတူစာချုပ်ကို ၂၀၁၄ခုနှစ်၊ ဇူလိုင်လ(၃၀) ရက်နေ့တွင် ချုပ်ဆိုသော နှစ်ဦးသဘောတူစာချုပ် (နောင်တွင် "မူလစာချုပ်"ဟု ခေါ်တွင်ရမည်ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ခ) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့အကြား အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအား ငှားရမ်းသည့် သဘောတူစာချုပ်ကို ၂၀၁၅ခုနှစ် မေလ(၂၁)ရက်နေ့တွင် ချုပ်ဆိုသော နှစ်ဦးသဘောတူစာချုပ်(နောင်တွင် ပထမအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်ဟု ခေါ်တွင်ရမည်ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ဂ) "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တို့အကြား အမှတ်(၁)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့်မြေအား ငှားရမ်းသည့်သဘောတူစာချုပ်ကို ၂၀၁၅ခုနှစ်၊ ဇူလိုင်လ(၂၉)ရက်နေ့တွင် ချုပ်ဆိုသော နှစ်ဦးသဘောတူစာချုပ်(နောင်တွင် ဒုတိယအကြိမ်၊ ပြင်ဆင်ဖြည့်စွက်သည့်ပြင်ဆင်ချက်သဘောတူစာချုပ်ဟုခေါ်တွင်ရမည်ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (                    )ရက်စွဲပါ ခွင့်ပြုချက်အမိန့်ကြော်ငြာစာအမှတ် (                                        ) အရတစ်ကြောင်း၊

(င) မူလစာချုပ်၏ "စာချုပ်ပြင်ဆင်ခြင်း" ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂)၊ အပိုဒ်ခွဲ(က)တွင် စာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၏ အတည်ပြုချက် ရယူဆောင်ရွက်ရမည်ဟု ဖော်ပြပါရှိသည်ကတစ်ကြောင်း၊

(စ) မူလစာချုပ်ပါ အချို့စည်းကမ်းချက်များအား ထပ်မံဖြည့်စွက်လိုခြင်းနှင့် အစားထိုးပြင်ဆင်လိုခြင်းတို့ကြောင့် တစ်ကြောင်း၊ အောက်ပါ စည်းကမ်းချက်များနှင့်အညီ ဤ(              ) ပြင်ဆင်ချက်သဘောတူစာချုပ်ကို စာချုပ်ဝင်များ အကြား ချုပ်ဆိုခြင်းဖြစ်ပါသည်-

(၁) မူလစာချုပ်ပါ "ငှားရမ်းမည့်အချိန်ကာလ" ခေါင်းစဉ်အောက်ရှိ အပိုဒ်(၄)တွင် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၄။ ငှားရမ်းမည့်အချိန်ကာလမှာ ၂၀၁၃ခုနှစ်၊ နိုဝင်ဘာလ(၁)ရက်နေ့မှ ၂၀၆၃ခုနှစ်၊ အောက်တိုဘာလ(၃၁)ရက်နေ့အထိ (၅၀)နှစ်ဖြစ်ပြီး စာချုပ်သက်တမ်းကုန်ဆုံး၍ သက်တမ်းတိုးပါက သက်တမ်း တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ်တိုးနိုင်သည်။

(၂) မူလစာချုပ်ပါ "စာချုပ်သက်တမ်း" ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၁)အား ပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၁၁။ သဘောတူစာချုပ်၏ သက်တမ်းသည် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ(၁)ရက်နေ့မှ ၂၀၆၃ခုနှစ်၊ အောက်တိုဘာလ(၃၁)ရက်နေ့အထိ ကနဦး (၅၀)နှစ်ဖြစ်ပြီး စာချုပ်သက်တမ်းကုန်ဆုံး၍ သက်တမ်းတိုးပါက သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ်တိုးနိုင်သည်။ စာချုပ်သက်တမ်းတိုးဆောင်ရွက်ခြင်းအား စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။ စာချုပ်သက်တမ်းတိုးရာတွင် ငှားရမ်းနှုန်းထားကို ဖော်ပြလျက် စာချုပ်သက်တမ်းတိုးမြှင့်ပေးရန် "အငှားချထားသူ"ထံသို့ စာချုပ်သက်တမ်းမကုန်ဆုံးမီ (၃)လကြိုတင်၍ စာဖြင့် တင်ပြရမည်။

(၃) ဤပြင်ဆင်ချက် သဘောတူစာချုပ်နှင့် ပူးတွဲပါ နောက်ဆက်တွဲတို့သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

(၄) ဤမြင်ဆင်ချက် သဘောတူစာချုပ်ပါ ပြင်ဆင်ပြောင်းလဲသည့် စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များသည် ပြောင်းလဲမှုမရှိစေရ၊

(၅) ဤမြင်ဆင်ချက် သဘောတူစာချုပ်သည် နှစ်ဖက်စာချုပ်ဝင်တို့ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူ လက်ခံပါသဖြင့် အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ( )ရက်နေ့ တွင်လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| **အငှားချထားသူ(ကိုယ်စား)** | **အငှားချထားခြင်းခံရသူ(ကိုယ်စား)** |
| ဦးခင်မောင်တင်<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း) | ဦးလှမြင့်ရွှေ<br>(၁/မကန(နိုင်)၀၀၇၀၉၂)<br>Managing Director<br>United Pacific Co.,Ltd. |

<u>အသိသက်သေများ</u>

| | |
|---|---|
| ဦးသိန်းလွင်<br>အထွေထွေမန်နေဂျာ(စီမံရေးဌာန)<br>(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း) | ဒေါ်အေးမြတ်မွန်<br>(၇/ပခန(နိုင်) ၂၂၆၂၀၂)<br>Deputy Managing Director<br>United Pacific Co.,Ltd. |
| ဦးဝင်းအောင်<br>အထွေထွေမန်နေဂျာ(ထုတ်လုပ်ရေး)<br>(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း) | ဒေါ်မြတ်မိုးသိမ်း<br>(၁၂/အလန(နိုင်)၀၃၁၃၂၈)<br>Finance Manager<br>United Pacific Co.,Ltd. |

၄

အမှတ်(၀)အထည်စက်ရုံခွဲ(မရမ်းကုန်း)နှင့် မြေအားငှားရမ်းထားသော သဘောတူစာချုပ်ကို

ပြင်ဆင်ဖြည့်စွက်သည့်(                    ) ပြင်ဆင်ချက် သဘောတူစာချုပ်

<u>အသိသက်သေများ</u>

ဒေါ်ခင်ခင်ချို
အထွေထွေမန်နေဂျာ(ဘဏ္ဍာရေး)
(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း)

ဦးအောင်မျိုးမင်း
အထွေထွေမန်နေဂျာ(ရောင်းချဖြန့်ဖြူးရေး)
(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း)

ဦးစိုးဝင်း
အထွေထွေမန်နေဂျာ(အုပ်ချုပ်ရေး)
(အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း)

**FORM XXVI**

**PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN**

**(Myanmar Companies Act, See Section 87)**

0

Name of Company : UNITED PACIFIC CO.,LTD. Presented by : U HLA MYINT SHWE(M.B)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U HLA MYINT SHWE | MYANMAR 1/ MA KA NA(NAING) 017192 | NO.593,PYAY ROAD,WARD NO.2,KAMAYUT TOWNSHIP, YANGON. | MERCHANT | MANAGING DIRECTOR |
| 2. DAW AYE MYAT MON | / MYANMAR 7/PA KHA NA(NAING) 226212 | NO.593,PYAY ROAD,WARD NO.2,KAMAYUT TOWNSHIP, YANGON. | MERCHANT | DEPUTY MANAGING DIREC |
| 3. U ZAW WIN HTUN | MYANMAR 1/MA KA NA(NAING) 017199 | NO.191,27th STREET,BETWEEN 81st & 82nd STREET, CHAN AYE THAR ZAN TOWNSHIP,MANDALAY. | MERCHANT | DIRECTOR |
| 4. U TINT LWIN | MYANMAR 1/MA NYA NA(NAING) 074620 | NO.193/10,29th STREET,BETWEEN 83rd & 84th ST., SHIN BOH MAE COMPOUND,CHAN AYE THAR ZAN TSP, MANDALAY. | MERCHANT | RESIGNED FROM DIRECTC w.e.f(30.4.2012) |
| 5. DAW AYE AYE MAY | MYANMAR 9/MA YA TA(NAING) 006806 | NO.193/10,29th STREET,BETWEEN 83rd & 84th STREET, SHIN BOH MAE COMPOUND,CHAN AYE THAR ZAN TOWNSHIP,MANDALAY. | MERCHANT | RESIGNED FROM DIRECT( w.e.f(30.4.2012) |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ......... and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry.

Signature ..................

Designation ..................

Aye Myat

Deputy Manag...

UNITED ...

...ed this ....30.4.2012....................

Form 2...

| ၂၀၀၈ ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည် ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန်တာဝန်ရှိသည် |
|---|

**CDN-16**

**1-10-2015**

ပတခ(ကသခ)-၁၇

## ကုန်သွယ်လုပ်ငန်းခွန် ဥပဒေပုဒ်မ ၁၄ နှင့် ၁၇ တို့အရ အခွန်စည်းကြပ်တောင်းခံလွှာ
## (စည်းမျဉ်း ၁၂ ညွှန်း)

သို့

အမည် United Pacific Co.,Ltd

လိပ်စာ အမှတ်-ရဖ(ဖန်ချက်ဝန်ဦးရွှေအိုးလမ်း၊ စက်မှုဇုံ(၃)၊ ရွှေပြည်သာမြို့နယ်

လုပ်ငန်းရှင်မှတ်ပုံတင်အမှတ် ထလ/၈၇

၁။ ၂၀၁၅-၂၀၁၆ စည်းကြပ်နှစ်အတွက် ကျောဘက်တွင် အသေးစိတ်ဖော်ပြထားသော အောက်ဖော်ပြပါငွေကို ပေးဆောင်ရန် အကြောင်းကြားပါသည်။

| | | | |
|---|---|---|---|
| (က) ကုန်သွယ်လုပ်ငန်းခွန် | | | ၁၄၁၉၄၀၃၀ |
| ဒဏ်ငွေ | | | ၁၄၁၉၄၀၃ |
| စုစုပေါင်း | | | ၁၅၆၁၃၄၃၃ |

စုစုပေါင်းအခွန် (စာဖြင့်) တစ်ဆယ့်ငါးသန်းခြောက်သိန်းတစ်သောင်းသုံးထောင်လေးရာသုံးဆယ့်သုံးကျပ်တိတိ

၂။ ထိုငွေကို ရန်ကုန် မြို့ရှိ စီးပွားရေး ဘဏ် ၃ သို့ ၂၂-၁၀-၂၀၁၅ နေ့ထက်နောက်မကျစေဘဲ ပွဲးတွဲ၀ါငွေသွင်းချလန်များဖြင့်ပေးသွင်းပြီးနေ-မှုရင်းကိုလက်ခံ အဖြစ်ရယူ စေလိုပါသည်။

ဘဏ်စာရင်းအမှတ် (                ) သို့လွှဲပြောင်းပေးသွင်း

၃။ အထက်အပိုဒ်(၁)တွင် ဖော်ပြထားသော စုစုပေါင်းအခွန်နှင့် ဒဏ်ငွေကို သတ်မှတ်နေ့ မကျော်လွန်မီ ပေးဆောင်ရန် ပျက်ကွက်လျှင် ပုဒ်မ ၂၁ ပုဒ်မခွဲ(စ) အရ အခွန်ငွေ၏ တစ်ဆယ်ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ဒဏ်ငွေအဖြစ် တပ်ရိုက်ခံရမည်ဖြစ်သည့်အပြင် ပုဒ်မ ၂၄ အရယင်းငွေများကို အရကောက်ခံရမည်ဖြစ်သောကြောင့် မပျက်မကွက် ပေးဆောင်စေလိုပါသည်။

၄။ အခွန်ကျပ် ၃၀၀၀၀ ထက်ပိုလျှင် အယူခံခွင့်ရှိပါသဖြင့် အယူခံလိုပါက ဤအခွန်တောင်းခံလွှာရရှိသည့်နေ့မှ တစ်လအတွင်း ပုဒ်မ ၁၉ ပုဒ်မခွဲ(က) ပုဒ်မခွဲ(က) မပိုဒ် (၁) အရ ရန်ကုန် မြို့ရှိ ကုမ္ပဏီများဆိုင်ရာ အခွန်ရုံးဌာနမှူး၊ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အခွန်ဦးစီးဌာနမှူးထံ သတ်မှတ်ထားသော အယူခံလွှာပုံစံဖြင့် ဥပဒေအရ လိုအပ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး ပေးပို့ရပါမည်။ ဤအယူခံဝင်လွှာ မတင်သွင်းမီ အခွန်ကို အကျေပေးဆောင်ပြီး ဖြစ်ရပါမည်၊ သို့မဟုတ် ပြည်နယ်အခွန်ဦးစီးဌာနမှူးထံ လျှောက်ထား၍ ၎င်းကဆုံးဖြတ်သည့်အတိုင်း လိုက်နာဆောင်ရွက်ပြီးဖြစ်ရပါမည်။

လက်မှတ်(လက်နိုင်ဦး)

ဦးစီးအရာရှိ

အလယ်အလတ်အခွန်ထမ်းများ အခွန်ဦးစီးဌာနမှူး

.................. မြို့နယ်။

၂၀၀၈ ခုနှစ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၈၉ အရ နိုင်ငံသားတိုင်းသည်
ဥပဒေအရ ပေးဆောင်ရမည့် အခွန်အကောက်များကို ပေးဆောင်ရန်တာဝန်ရှိသည်

ပတခ (ဝင) - ၈

# ဝင်ငွေခွန် ဥပဒေပုဒ်မ ၅၃ အရ အခွန်တောင်းခံလွှာ

CDN- 105
1-10- 2015

သို့ — အခွန်ထမ်းမှတ်ပုံတင်စာရင်းအမှတ် ..722/MCO.........

United Pacific Co.,Ltd
အမှတ်(၈၆)၊ ဖန်ချက်ဝန်ဦးရွှေအိုးလမ်း၊ ဝက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်

၁။ ၂၀၁၅ - ၂၀၁၆ စည်းကြပ်နှစ်အတွက် လူကြီးမင်းသည် ကျောဘက်ပါပုံစံတွင် အသေးစိတ်ဖော်ပြထားချက်အရ အောက်ပါငွေကို ပေးဆောင်ရန် အကြောင်းကြားပါသည်။

| | | ကျပ် | ပြား |
|---|---|---|---|
| (က) ဝင်ငွေခွန် | .... | ၂၁၆၅၅၈၀၅ | |
| (ခ) ပုဒ်မ ၁၆ (ဇ) အရ ဒဏ်ငွေ | .... | ၂၁၆၅၅၈၉ | |
| (ဂ) ပုဒ်မ ၄၀(က) အရ ဒဏ်ငွေ | .... | | |
| (ဃ) ပုဒ်မ ၆၄(က) အရ ဒဏ်ငွေ | .... | | |
| (င) ပုဒ်မ ၄၇(ခ) အရ ဒဏ်ငွေ | .... | | |
| (စ) ပုဒ်မ ၄၇(ဂ) အရ ဒဏ်ငွေ | .... | | |
| စုစုပေါင်း | | ၂၃၈၂၁၃၉၄ | |

၂။ အထက်ဖော်ပြပါ ငွေစုစုပေါင်းကို ရန်ကုန် မြို့ရှိ သက်ဆိုင်ရာဘဏ်တွင် ၂၂-၁၀-၂၀၁၅ နေ့၌ဖြစ်စေ၊ ထိုနေ့မတိုင်မီဖြစ်စေ ပူးတွဲပါ ငွေသွင်းစေပြာစာပုံစံဖြင့် ပေးသွင်းပြီး ငွေလက်ခံဖြတ်ပိုင်းကို ရယူစေလိုပါသည်။

၃။ အထက်အပိုဒ် (၁) တွင်ဖော်ပြထားသည့် အခွန်နှင့်ဒဏ်ငွေစုစုပေါင်းကို ပေးဆောင်ရန်ပျက်ကွက်ပါက ပုဒ်မ (၄၀) အရ ထိုတောင်းခံငွေစုစုပေါင်းနှင့်ညီမျှသည်အထိ ဒဏ်ငွေတပ်ရိုက်ခြင်းနှင့် တရားစွဲဆိုအရေးယူခံရခြင်း ခံရဖွယ်ရှိပါ၍ မပျက်မကွက် ပေးဆောင်စေလိုပါသည်။

၄။ စည်းကြပ်မှုကို ပုဒ်မ ၁၉ (ဃ) အရ ပြုလုပ်ထားသည်မှာ လူကြီးမင်းသည်-
~~ဒ်မ ၁၇ အရဝင်ငွေကြေငြာလွှာတင်သွင်းရန်~~
ပုဒ်မ ၁၉ (ခ) အရ ဝင်ငွေကြေငြာလွှာတင်သွင်းရန် — ပျက်ကွက်ခဲ့ခြင်းကြောင့်ဖြစ်ပါသည်။

၅။ စည်းကြပ်မှုသို့မဟုတ် ဒဏ်ငွေတပ်ရိုက်မှုကို အယူခံလိုပါက ဤအကြောင်းကြားစာရရှိပြီး ကပ်လျက်ဖြစ်သော နောက်နေ့မှ ရက်ပေါင်း (၃၀) အတွင်း ဝင်ငွေခွန် ဥပဒေပုဒ်မ ၃၂(က) အရ ရန်ကုန် မြို့ ရှိ ရန်ကုန် တိုင်းဒေသကြီး/ ပြည်နယ်အခွန်ဦးစီးဌာနမှူးရုံး သို့မဟုတ် ကုမ္ပဏီများဆိုင်ရာအခွန်ရုံးသို့ ပြဋ္ဌာန်းထားသော အယူခံပုံစံဖြင့် စည်းကမ်းနည်းလမ်းများအတိုင်း ဆောင်ရွက်ပြီး အယူခံလွှာကို တင်သွင်းရန်ဖြစ်ပါသည်။ ထို့အပြင် အယူခံမဝင်မီ အခွန်ငွေကို ပေးဆောင်ပြီး ဖြစ်ရပါမည်။ သို့မဟုတ် ...................... မြို့နယ်အခွန်ဦးစီးဌာနမှူးထံ ဆိုင်ရာပြဋ္ဌာန်းချက်အရ လျှောက်ထား၍ ယင်း၏ ဆုံးဖြတ်ချက်အတိုင်း ဆောင်ရွက်ထားပြီးဖြစ်ရပါမည်။

ရုံးတံဆိပ်
နေ့စွဲ

(သက်နိုင်ဦး)
မြို့နယ်အခွန်ဦးစီးဌာနမှူး
အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၁)

# စည်းကြပ်နှစ်အတွက် စည်းကြပ်မှုပုံစံ

အမည် United Pacific Co.,Ltd C.C.T.O မြို့နယ်

လိပ်စာ အမှတ်- (၈၆)၊ ဖန်ချက်ဝန်ဦးရွှေအိုးလမ်း၊ ရန်ကုန် တိုင်းဒေသကြီး/ပြည်နယ်

စက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်

အခွန်ထမ်းမှတ်ပုံတင်အမှတ် ထလ/၈၇

| အမှတ်စဉ် | လုပ်ငန်းအမျိုးအစား | သတ်မှတ်သည့်ရောင်းရငွေ သို့မဟုတ် ရငွေပေါင်း | အခွန်နှုန်း | ကျသင့်အခွန် (ကျပ်) |
|---|---|---|---|---|
| | ကုန်စည်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း | | | |
| | ထုတ်လုပ်သည့်ကုန်စည်အမျိုးအမည် | | | |
| | ၁။ | | | |
| | ၂။ | | | |
| | ၃။ | | | |
| | ၄။ | | | |
| | ၅။ | | | |
| | ဝန်ဆောင်မှုလုပ်ငန်းအမျိုးအစား | | | |
| | ဆောင်ရွက်သည့် | | | |
| | ဝန်ဆောင်မှုလုပ်ငန်းအမျိုးအစား | | | |
| | ၁။ ကာသ | ၁၁၈၀၀၀၀၀၀၀၀ | ၂% | ၂၃၁၃၇၂၅၅ |
| | ၂။ | | | |
| | ၃။ | | | |
| | ၄။ | | | |
| | ၅။ | | | |
| | စုစုပေါင်း | ၁၁၈၀၀၀၀၀၀၀၀ | ၂% | ၂၃၁၃၇၂၅၅ |
| | နုတ်ပုဒ်မ ၁၂ အရ လစဉ်ပေးဆောင်ပြီးအခွန်ငွေ သို့မဟုတ်(စည်းမျဉ်း-၄၂အရခုနှိမ်ခွင့်) | | | ၈၉၄၂၅၅ |
| | မူလစည်းကြပ်မှုအရပေးဆောင်ပြီးအခွန်ငွေ | | | |
| | ထပ်မံပေးဆောင်ရန်အခွန်ငွေ | | | ၁၄၁၉၄၀၃၀ |

# ဝင်ငွေအမျိုးအစားအလိုက် သတ်မှတ်မှု

| ဝင်ငွေရလမ်း | | သတ်မှတ်သည့် ဝင်ငွေ |
|---|---|---|
| | | ကျပ် |
| ၁။ လစာ | .... | |
| ၂။ အသက်မွေးဝမ်းကျောင်းပညာလုပ်ငန်း | .... | |
| ၃။ စီးပွားရေးလုပ်ငန်း | .... | ၁၁၀၅၆၁၁၃၄ |
| ၄။ ပစ္စည်း | .... | |
| ၅။ အခြေပစ္စည်းမှုမြတ်စွန်းငွေ | .... | |
| ၆။ ဝင်ငွေရလမ်းအဖော်ပြနိုင်သောဝင်ငွေ | .... | |
| ၇။ အခြားရလမ်းမှဝင်ငွေများ | .... | |
| စုစုပေါင်း | .... | ၁၁၀၅၆၁၁၃၄ |
| သက်သာခွင့်များ | .... | - |
| အခွန်စည်းကြပ်ရန်အသားတင်ဝင်ငွေ | .... | ၁၁၀၅၆၁၁၃၄ |
| ကျသင့်ဝင်ငွေခွန် | .... | ၂၇၆၄၀၂၈၄ |
| နုတ်-ပုဒ်မ ၁၆ အရ ပေးဆောင်ပြီးအခွန် | .... | ၅၉၈၄၃၉၉ |
| ပေးဆောင်ရန်ကျန်/ပြန်အမ်းရန်အခွန် | .... | ၂၁၆၅၅၈၈၅ |

* သက်သာခွင့်များ

| | | | |
|---|---|---|---|
| (၁) | အခြေခံ | .... | ကျပ် |
| (၂) | အိမ်ထောင်ဖက်အတွက် | .... | ကျပ် |
| (၃) | သားသမီးများအတွက် | .... | ကျပ် |
| (၄) | အခွန်ထမ်းနှင့် အိမ်ထောင်ဖက်၏ အသက်အာမခံအတွက် | .... | ကျပ် |
| (၅) | စုဆောင်းငွေအတွက် | .... | ကျပ် |
| (၆) | လှူဒါန်းငွေအတွက် | .... | ကျပ် |
| | စုစုပေါင်း | .... | ကျပ် |

ပုံစံ(၁၄)ခ၊ ဦးသက်နိုင်ဦး (စု-၂)

ငွေပေးသွင်းသူသို့ ပြန်ပေးရန်

MD-010116 စည်း

အခွန်ပေးဆောင်မှုအတွက် အထူးပင်ကျေးဇူးတင်ရှိပါသည်။

CDN 105

RECEIVING-3 1/10/2015

CHALAN NO. ၃၅

| | |
|---|---|
| အခွန်ထမ်းလုပ်ငန်းမှတ်ပုံတင်အမှတ် | 722/Mco/2015-2016 |
| အခွန်ထမ်းအမည် | United Pacific Co.,Ltd |
| လိပ်စာ | ၈၆၊ ဖန်ချက်ဝန်ဦးရွှေအိုးလမ်း၊ စက်မှုဇုန်(၃)၊ ရွှေပြည်သာ |
| ကျပ် 21655885 | နှုန်းဒေါ် 2165589 |
| သင့်ငွေ ဂဏန်းဖြင့် | 23821474 |
| စာဖြင့်(ကျပ်) | နှစ်ဆယ့်သုံးသန်းရှစ်သိန်းနှစ်သောင်းတစ်ထောင်လေးရာခုနစ်ဆယ့်လေးကျပ်တိတိ |

ရက်စွဲ ၁၅၊ ၁၀၊ ၁၅

ပေးသွင်းသဖြင့်လက်ခံရရှိပါသည်

27 OCT 2015

-၁၁၀ ၀၄၇၄

တာဝန်ခံနေရာ

မြန်မာ့စီးပွားရေးဘဏ်တံဆိပ်

စည်းကြပ်မှုအရငွေသွင်းချလန် **MD-010118** တသခ-၁၆ တ

ငွေပေးသွင်းသူသို့ ပြန်ပေးရန်

ဦးသက်နိုင်ဦး စိမ့်(၁)

စည်း

**ဘဏ်ခွဲ(၃)**

RECEIVING 

CHALAN NO. 86

အခွန်ထမ်း၏ လုပ်ငန်းမှတ်ပုံတင်အမှတ် ထလ/၈၇/၂၀၁၅-၂၀၁၆

အခွန်ထမ်းအမည် United Pacific Co , Ltd

လိပ်စာ အမှတ်(၈၆)၊ ဖန်ချက်ဝန်ဦးရွှေအိုးလမ်း၊ စက်မှုဇုန်(၃)၊ ရွှေပြည်သာ

| | | | |
|---|---|---|---|
| ကျပ် | 14194030 | နှုန်းထား | 1419403 |
| စုစုပေါင်း | ဂဏန်းဖြင့် | 15613433 | |
| | စာဖြင့်(ကျပ်) | တစ်ဆယ့်ငါးသန်းခြောက်သိန်းတစ်သောင်းသုံးထောင် လေးရာသုံးဆယ့်သုံးတိတိ | |

ရက်စွဲ 27.10.15

ပေးသွင်းသဖြင့်လက်ခံရရှိပါသည်

27 OCT 2015

-156 13433

မြန်မာ့စီးပွားရေး ဘဏ်တံဆိပ်

ဘဏ်မန်နေဂျာ